# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် တင်ပြလာသော United Hotels and Resorts Co., Ltd. မှ လုပ်ငန်း၏ ကော်မရှင် အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁။ | အဆိုပြုချက်လက်ခံရရှိခြင်း | ၂-၁၀-၂၀၁၄ | - | - |
| ၂။ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) စီမံကိန်း စိစစ်ရေးနှင့် တိုးတက်မှု အစီရင်ခံရေး ဦးစီးဌာန | ၁၁-၁၀-၂၀၁၄ | ၃၀-၁၀-၂၀၁၄ | |
| | (ခ) ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၁၃-၁၀-၂၀၁၄ | ၁၀-၁၁-၂၀၁၄ | |
| | (ဂ) ဟိုတယ်နှင့်ခရီးသွားလာရေး လုပ်ငန်း ဝန်ကြီးဌာန | ၁၃-၁၀-၂၀၁၄ | ၃၀-၁၀ -၂၀၁၄ | |
| ၃။ | PAT (၄၁/၂၀၁၄) (၂၀-၁၀-၂၀၁၄) အစည်းအဝေး တင်ပြခြင်း | ၂၀-၁၀-၂၀၁၄ | | |
| ၄။ | PAT အစည်းအဝေးဆုံးဖြတ်ချက်အား ကုမ္ပဏီသို့ ပြန်ကြားသည့် ရက်စွဲ | ၂၈-၁၀-၂၀၁၄ | | |
| ၅။ | ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပေးပို့ခြင်း | ၁-၁၂-၂၀၁၄ | | |
| ၆။ | ဟိုတယ်နှင့်ခရီးသွားလာရေး လုပ်ငန်း ဝန်ကြီးဌာန၏သဘောထားမှတ်ချက်နှင့် အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပေးပို့ခြင်း | ၂၉-၁၂-၂၀၁၄ | | |
| ၇။ | ကုမ္ပဏီမှ အဆိုပြုလွှာ(၁၅)စုံ ပြန်လည်ပေးပို့ခြင်း/PATအစည်းအဝေးဆုံးဖြတ်ချက်နှင့်အညီပြင်ဆင်တင်ပြလာခြင်း | ၉-၁-၂၀၁၅ | | |
| ၈။ | **စုစုပေါင်းကြာမြင့်ရက်** | **(၉၉)ရက်** | | |

မှတ်ချက်- အဆိုပြု ကုမ္ပဏီမှ (၉၀)ရက်အတွင်း ပြင်ဆင် တင်ပြရမည့် အချက်အလက်များအား အချိန်မီ မတင်ပြနိုင်သေး၍ အသနားခံ တင်ပြထားသောကြောင့် ရက်ပေါင်း(၉၀) ကျော်လွန်နေခြင်း ဖြစ်ပါသည်။

## United Hotels and Resorts Co., Ltd. သည် တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ကျွန်းစုအတွင်း၊ ခေါင်ညိုကြီးကျွန်းတွင် ဟိုတယ် အပန်းဖြေစခန်း ဝန်ဆောင်မှုလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခွင့် အဆိုပြုချက်နှင့်စပ်လျဉ်းသည့် အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - United Hotels and Resorts Co., Ltd. |
| | လုပ်ငန်းအဆိုပြုသူအမည် | - ဦးဇော်မျိုးကျော်(အဘ-ဦးသော်) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - လီမိတက်ကုမ္ပဏီ(Private Company ဖြစ်ပါသည်။) |
| | အဆိုပြုလုပ်ငန်းအမျိုးအစား | - ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း |
| | လုပ်ငန်းတည်နေရာ / မြေအကျယ်အဝန်း | - တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ကျွန်းစုဒေသ၊ ခေါင်ညိုကြီးကျွန်း ရှိ မြေဧရိယာ(၂၀)ဧက |
| ၂။ | တည်ဆောက်ရေးကာလ | - ၂၄လ |
| ၃။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - (၅၀)နှစ်ခန့် |
| ၄။ | မြေ ငှားရမ်းခြင်း စာချုပ်(မူကြမ်း)နှင့် B.O.T စနစ်ဖြင့် ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)ပါ အဓိကအချက်များ | - မြေအသုံးချမှု ပရီမီယံကြေးအဖြစ် ကျပ် ၆,၀၀၀,၀၀၀ (ကျပ်သိန်းခြောက်ဆယ်တိတိ) အား စာချုပ်လက်မှတ် ရေးထိုးပြီးသည့်နေ့မှ တစ်လအတွင်း တစ်ကြိမ်တည်း ပေးသွင်းရမည် ဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်း ကာလမှာ ကနဦး နှစ်(၅၀) နှင့် နောက်ထပ် (၁၀)နှစ် (၂)ကြိမ် ဖြစ်ပါသည်။<br>- နှစ်စဉ် မြေငှားရမ်းခအဖြစ် တစ်ဧကလျှင် ကျပ် ၂၀၀၀၀( ကျပ်နှစ်သောင်း) နှုန်းဖြင့် (၂၀.၀၀) ဧကအတွက် တစ်နှစ်လျှင် စုစုပေါင်း ကျပ် ၄၀၀,၀၀၀ အား နှစ်ကြိမ် အရစ်ကျ ခွဲ၍ ပေးသွင်းရမည်။<br>- တည်ဆောက်ရေး ကာလအား မြေလွှဲပြောင်း လက်ခံသည့် နေ့မှစ၍ (၂၄)လအတွင်း တည်ဆောက်ရမည် ဖြစ်သည်။<br>- မြေငှားရမ်းသည့် ကာလကို ခွင့်ပြုပေးထားသည့် တည်ဆောက်ရေးကာလ (၂၄)လ ပြည့်သည့်နေ့မှစ၍ နှစ် (၅၀) ဖြစ်သည်ဟု ရေတွက်သတ်မှတ်ပါသည်။<br>- တည်ဆောက်ရေးကာလ (၂၄)လအတွက် မြေငှားရမ်းခ ကင်းလွတ်ခွင့်ပြုပါသည်။ |
| ၅။ | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု**<br>- ငွေပမာဏ<br>- ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများ<br>- အဆောက်အဦ<br>- မော်တော်ယာဥ်များ | **- ကျပ် ၅၀၀.၀၀ သန်း (US$ ၀.၀၂ သန်း အပါအဝင်)**<br>- ကျပ် ၈၅.၀၀ သန်း<br>- ကျပ် ၉၂.၉၅ သန်း<br>- ကျပ် ၃၀၀.၀၀ သန်း<br>- ကျပ် ၂၂.၀၅ သန်း (US$ ၀.၀၂ သန်း ) |

| | | |
|---|---|---|
| ၆။ | ပြည်ပမှ အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် အဆောက်အအုံ အတွက်တင်သွင်းမည့် စက်ပစ္စည်းများစာရင်း | - ပြည်ပမှ အခွန်အကောက် ကင်းလွတ်ခွင့်ဖြင့် တင်သွင်းမည့် စက်ပစ္စည်းများနှင့် တည်ဆောက်ရေး လုပ်ငန်းသုံး ပစ္စည်းများ စာရင်းကို **ပူးတွဲ** တင်ပြထားပါသည်။ |
| ၇။ | ဝန်ဆောင်မှု(၆)နှစ်မြောက် | အဆိုပြုလုပ်ငန်း၏ အခန်းအရေအတွက်မှာ ၄၀ ခန်းရှိပြီး ပုံမှန် နှစ်(၆)နှစ်မြောက်တွင် ရရှိမည့် အခန်းခ နှုန်းထားများမှာ တစ်ခန်းလျှင် US$ ၆၀ နှုန်းဖြင့် လည်းကောင်း၊ ကျပ်အနေဖြင့် ၇၀,၀၀၀ ကျပ် ကောက်ခံမည် ဖြစ်ပါသည်။ |
| ၈။ | ဝင်ငွေ<br>အသားတင်အမြတ်(၆ နှစ်မြောက်) | - US$ ၀.၇၅ သန်း၊ ကျပ် ၅၈၂.၁၂ သန်း<br>- ကျပ် ၈၃.၃၄ သန်း |
| ၉။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန် | <br><br>- ကျပ် ၂၇.၇၈ သန်း<br>- US$ ၀.၀၄ သန်း၊ ကျပ် ၂၉.၁၁ သန်း |
| ၁၀။ | အရင်းကြေကာလ | - (၆)နှစ် (၂)လ |
| ၁၁။ | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁၈.၀၉၆ % |
| ၁၂။ | လုပ်သားအင်အား | - ပြည်တွင်း - ၆၅ ဦး |
| ၁၃။ | လစာပေးချေမှုအစီအစဉ် | - အနိမ့်ဆုံးဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် (၁၂၇,၅၀၀)ဖြစ်ပြီး အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ်(၅၀၀,၀၀၀) ဖြစ် ပါသည်။ |
| ၁၄။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - နှစ်စဉ် အသားတင်အမြတ်၏ ၂ % အား တနင်္သာရီတိုင်း ဒေသကြီး ဖွံ့ဖြိုးတိုးတက်ရေးအစီအစဉ်များတွင် ထည့်သွင်း ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၅။ | မီးဘေးကာကွယ်ထားရှိမှု အစီအစဉ် | - မီးဘေးအန္တရာယ် မဖြစ်ပွားစေရန်အတွက် ကြိုတင်ကာကွယ် တားဆီးမှု အစီအမံများ တင်ပြထားပါသည်။ |
| ၁၆။ | လျှပ်စစ်ဓါတ်အား | လျှပ်စစ်ဓါတ်အားကို မဟာဓါတ်အားလိုင်းမှ ရယူသုံးစွဲမည် ဖြစ်ပြီး မဟာဓါတ်အားလိုင်းမှ လျှပ်စစ်ဓါတ်အား မရရှိသည့် အချိန်တွင် 150 H.P(2)Units အသုံးပြု၍ လုပ်ငန်း ဆောင်ရွက် မည်ဖြစ် ကြောင်း တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၇။ | စိစစ်တင်ပြချက် | (က) တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းမြို့နယ်၊ စူငယ်ဘာလိုင်း ကျေးရွာအုပ်စု၌ ဟိုတယ်လုပ်ငန်း ဆောင်ရွက်မည့် Cocoon Hotel Company Limited အား ကော်မရှင်၏ (၂၉/၂၀၁၄)(၂၆-၁၂-၂၀၁၄)အစည်းအဝေးမှ ခွင့်ပြု ပေးခဲ့ပြီး ခွင့်ပြုမိန့် အမှတ် ၁၀၂၁/၂၀၁၅ (၁၂-၁-၂၀၁၅) ရက်စွဲဖြင့် ခွင့်ပြုမိန့် ထုတ်ပေးပြီး ဖြစ်ပါသည်။<br>(ခ) Cocoon Hotel Company Limited မှ မြေအသုံးချမှုပရီမီယံကြေးအဖြစ် မြေတစ်ဧကလျှင် ကျပ် ၁၀,၀၀၀ နှုန်းဖြင့် မြေ (၁၇.၀၀) ဧကအတွက် ကျပ် ၁၇၀,၀၀၀ အား လည်းကောင်း၊ နှစ်စဉ် မြေငှားရမ်းခအဖြစ် တစ်စတုရန်း မီတာလျှင် US$ (၁) ဒေါ်လာနှုန်းဖြင့် (၁၇.၀၀) ဧက (၆၈၇၈၂ စတုရန်းမီတာ)အတွက် တစ်နှစ်လျှင် US$ ၆၈၇၈၂ အား လည်းကောင်း ပေးချေရပါသည်။<br>(ဂ) ယခု တင်ပြသည့် အဆိုပြု ကုမ္ပဏီမှာ မြေအသုံးချမှု ပရီမီယံကြေးအဖြစ် ကျပ် ၆,၀၀၀,၀၀၀ ပေးသွင်းရမည် ဖြစ်ပြီး မြေငှားရမ်းခအဖြစ် တစ်နှစ်လျှင် ကျပ် ၂၀၀၀၀ ( ကျပ် နှစ်သောင်း) နှုန်းဖြင့် (၂၀.၀၀) ဧကအတွက် တစ်နှစ်လျှင် စုစုပေါင်း ကျပ် ၄၀၀,၀၀၀ အား နှစ်ကြိမ်ခွဲ၍ ပေးသွင်းရမည် ဖြစ်ပါသည်။<br>(ဃ) အဆိုပြုလုပ်ငန်းအတွက် လိုအပ်သော အောက်ဖော်ပြပါ ယာဉ် များအား ပြည်ပမှ တင်သွင်းလိုကြောင်း တင်ပြထားပါသည်-<br><br>စဉ် \| အမျိုးအမည် \| အရေအတွက် \| ဈေးနှုန်း(US$)<br>၁။ \| Mini Bus \| ၁ \| ၈၀၀၀<br>၂။ \| Speed Boat \| ၁ \| ၁၄၅၀၀<br><br>(င) မြေငှားရမ်းခြင်းစာချုပ်(မူကြမ်း)ပါ အပိုဒ် ၇ တည်ဆောက်ရေးကာလ သတ်မှတ်ချက် နှင့် အပိုဒ် ၈ မြေငှားရမ်းကာလ သတ်မှတ်ခြင်း ဖော်ပြချက်တို့မှာ ဆီလျော်မှု မရှိပါ၍ ပြန်လည် ပြင်ဆင်ပေးရန် နှင့် စာချုပ်(မူကြမ်း)ပါ အချက်အလက်များအား မှန်ကန်မှု ရှိစေရန် လိုအပ်ပါသည်။ |

| | |
|---|---|
| ကုမ္ပဏီအမည် | - United Hotels and Resorts Co., Ltd. |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - Private company ဖြစ်ပါသည်။ |
| လုပ်ငန်းအမျိုးအစား | - ဟိုတယ် ဝန်ဆောင်မှုလုပ်ငန်း |
| တည်နေရာ | - တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ကျွန်းစုဒေသ၊ ခေါင်ညိုကြီးကျွန်းရှိ မြေဧရိယာ(၂၀)ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၅၀၀.၀၀ သန်း |
| အရင်းကြေကာလ | - ၆ နှစ်နှင့် ၂ လ |
| IRR | - ၁၈.၀၉၆ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ | ၂.၀၄ (တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၁.၁၇ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၀.၀၀၁၄ | - |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | | ၁၉၇.၁၁ |
| ၅ | ဝင်ငွေခွန် | ၃၅.၅၃ | ၁၄၈.၆၄ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | - | ၁၂၅.၀၀ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | ၂၀.၅၅ |
| ၈ | CSR (၂%) | - | ၅.၁၄ |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ဝန်ထမ်း ၆၅ ဦး အလုပ်အကိုင်ရရှိမည် ဖြစ်ပါသည်။ |
| | စုစုပေါင်း | ကျပ် ၅၀.၅၉ သန်း | ကျပ် ၄၉၇.၆၁ သန်း |
| | Cost : Benefit | ၁ း ၉ | |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၄/မ- ၁၄၄၈/၂၀၁၅( ၀၆၂ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဇန်နဝါရီ လ ၂၈ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ **United Hotels and Resorts Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ကျွန်းစုဒေသ၊ ခင်ညိုကြီးကျွန်းတွင် ဟိုတယ် အပန်းဖြေစခန်း ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရန် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ မှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ**

၁။ United Hotels and Resorts Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ကျွန်းစုဒေသ၊ ခင်ညိုကြီးကျွန်းရှိ မြေဧရိယာ(၂၀)ဧကတွင် ဟိုတယ်အပန်းဖြေစခန်း ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဇော်မျိုးကျော်(အဘ-ဦးသော်)မှ တနင်္သာရီတိုင်း ဒေသကြီးအစိုးရအဖွဲ့မှတစ်ဆင့် အဆိုပြုချက် တင်ပြလာခြင်းအား ၂၀၁၄ ခုနှစ် အောက်တိုဘာ လ ၂၀ ရက် နေ့တွင် ကျင်းပပြုလုပ်သော အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ (၄၁/၂၀၁၄)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု သက်တမ်းကာလမှာ (၅၀)နှစ် ဖြစ်ပြီး တည်ဆောက်ရေး ကာလမှာ (၂၄)လ ဖြစ်ပါသည်။

၃။ တနင်္သာရီတိုင်း ဒေသကြီးအစိုးရအဖွဲ့ နှင့် United Hotels and Resorts Co., Ltd. တို့ ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထား မှတ်ချက်နှင့်အညီ ချုပ်ဆိုမည့် မြေ ငှားရမ်းခြင်း စာချုပ် (မူကြမ်း)နှင့် B.O.T စနစ်ဖြင့် ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)ပါ အဓိကအချက်များမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

(က) မြေအသုံးချမှု ပရီမီယံကြေးအဖြစ် ကျပ် ၆,၀၀၀,၀၀၀ (ကျပ် သိန်းခြောက်ဆယ်တိတိ) အား စာချုပ်လက်မှတ် ရေးထိုးပြီးသည့်နေ့မှ တစ်လအတွင်း တစ်ကြိမ်တည်း ပေးသွင်းရ မည် ဖြစ်ပါသည် ။ (စာချုပ်အပိုဒ် ၉-၁)

(ခ) အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်းကာလမှာ ကနဦး နှစ်(၅၀) နှင့် နောက်ထပ် (၁၀)နှစ် (၂)ကြိမ် ဖြစ်ပါသည်။ (စာချုပ်အပိုဒ် ၈-၂)

(ဂ) နှစ်စဉ် မြေငှားရမ်းခအဖြစ် တစ်ဧကလျှင် ကျပ် ၂၀၀၀၀( ကျပ် နှစ်သောင်း) နှုန်းဖြင့် (၂၀.၀၀) ဧကအတွက် တစ်နှစ်လျှင် စုစုပေါင်း ကျပ် ၄၀၀,၀၀၀ အား နှစ်ကြိမ် အရစ်ကျ ခွဲ၍ ပေးသွင်းရမည်။ (စာချုပ်အပိုဒ် ၉-၃)

(ဃ) တည်ဆောက်ရေးကာလအား မြေလွှဲပြောင်းလက်ခံသည့်နေ့မှစ၍ (၂၄)လအတွင်း တည်ဆောက်ရမည် ဖြစ်သည်။(စာချုပ်အပိုဒ် ၇-၂)

(င) မြေငှားရမ်းသည့် ကာလကို ခွင့်ပြုပေးထားသည့် တည်ဆောက်ရေးကာလ (၂၄)လ ပြည့်သည့်နေ့မှစ၍ နှစ် (၅၀) ဖြစ်သည်ဟု ရေတွက်သတ်မှတ်ပါသည်။ (စာချုပ်အပိုဒ် ၈-၂)

(စ) တည်ဆောက်ရေးကာလ (၂၄)လအတွက် မြေငှားရမ်းခ ကင်းလွတ်ခွင့်ပြုပါသည်။ (စာချုပ်အပိုဒ် ၇-၂)

၄။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ(၀.၀၂)သန်း အပါအဝင် စုစုပေါင်း ကျပ်(၅၀၀.၀၀)သန်း ဖြစ်ပါသည်။ ဟိုတယ်လုပ်ငန်းအတွက် လိုအပ်သော ယာဉ်များအတွက် အမေရိကန်ဒေါ်လာ (၀.၀၂)သန်းဖိုးကို ပြည်ပမှ ဝယ်ယူမည်ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | |
|---|---|---|
| (က) ငွေသား | ကျပ် | ၈၅.၀၀ သန်း |
| (ခ) ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများ | ကျပ် | ၉၂.၉၅ သန်း |
| (ဂ) အဆောက်အဦ | ကျပ် | ၃၀၀.၀၀ သန်း |
| (ဃ) မော်တော်ယာဉ်များ | ကျပ် | ၂၂.၀၅ သန်း ( US$ ၀.၀၂ သန်း) |
| **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **ကျပ်** | **၅၀၀.၀၀ သန်း** ( US$ ၀.၀၂ သန်း အပါအဝင်) |

၅။ လုပ်ငန်း ဆောင်ရွက်ရန် ပြည်တွင်း ဝန်ထမ်း (၆၅)ဦး ခန့်ထားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ ပြည်တွင်း ဝန်ထမ်း(၁)ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ်(၁၂၇,၅၀၀)ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ်(၅၀၀,၀၀၀)ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်း၏ အခန်းအရေအတွက်မှာ ၄၀ ခန်းရှိပြီး ပုံမှန်နှစ် (၆)နှစ်မြောက်တွင် ရရှိမည့် အခန်းခနှုန်းထားများမှာ တစ်ခန်းလျှင် US$ ၆၀ နှုန်းဖြင့် လည်းကောင်း၊ ကျပ်အနေဖြင့် ၇၀,၀၀၀ ကျပ် ကောက်ခံမည် ဖြစ်ပါသည်။

၇။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

**အမေရိကန်တစ်ဒေါ်လာ=၉၈၀ ကျပ်**

| စဉ် | အကြောင်းအရာ | US$ (သန်း) | ညီမျှသော ကျပ်(သန်း) | ကျပ်(သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|---|---|
| (က) | ဝင်ငွေ | ၀.၇၅ | ၇၃၃.၄၇ | ၅၈၂.၁၂ | ၁၃၁၅.၅၉ |
| (ခ) | အသုံးစရိတ် | ၀.၄၄ | ၄၂၉.၉၃ | ၈၀၂.၃၂ | ၁၂၃၂.၂၅ |
| (ဂ) | အသားတင်အမြတ် | ၀.၃၁ | ၃၀၃.၅၅ | (၂၂၀.၂၀) | ၈၃.၃၄ |

၈။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ကုန်သွယ်လုပ်ငန်းခွန် ကျပ်(၆၅.၇၈)သန်း နှင့် ဝင်ငွေခွန် ကျပ် (၂၇.၇၈)သန်း ရရှိမည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၆)နှစ် (၂)လဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ် နှုန်း (IRR) မှာ ၁၈.၀၉၆ % ဖြစ်ပါသည်။

၉။ ယင်းအဆိုပြုလုပ်ငန်း နှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်းများသို့ သဘောထားများတောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန (နောက်ဆက်တွဲ-က)**

(၁) စီမံကိန်းဆောင်ရွက်မည့် နေရာများသည် သစ်တောစိုက်ခင်း၊ ဒီရေတော၊ သစ်တောကြိုးဝိုင်း၊ ကြိုးပြင် ကာကွယ်တောနှင့် သဘာဝ နယ်မြေအတွင်း ကျရောက်ပါက မြေနေရာနှင့်စပ်လျဉ်း၍ သစ်တောဦးစီးဌာန၏ သဘောထားရယူ ဆောင်ရွက်ရန်။

(၂) စီမံကိန်းဆောင်ရွက်ရာတွင် Eco - Friendly အဖြစ် ဖွံ့ဖြိုးတိုးတက်စေရေး ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းများနှင့် အခြားဝန်ဆောင်မှုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက် ပျက်စီးမှုများကို လျော့နည်း စေရန်အတွက် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် နည်းလမ်းနှင့် အစီအမံ များထည့်သွင်းဆောင်ရွက်ရန်။

(၃) အဏ္ဏဝါဇီဝ မျိုးစုံမျိုးကွဲများနှင့် သန္တာကျောက်တန်းများအား ထိခိုက် ပျက်စီး မှုများကို ရှောင်ရှားနိုင်ရန်အတွက် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းပညာများ၊ နည်းလမ်းများကို အသုံးပြုရန်နှင့် ကျွန်းပေါ်ရှိ ဂေဟစနစ်များအား ထိန်းသိမ်းမည့် လုပ်ငန်းစဉ်များနှင့် လူမှုဘဝဖွံ့ဖြိုးမှု အစီအမံများ ထည့်သွင်းဆောင်ရွက်ရန်။

(၄) စီမံကိန်းလုပ်ငန်းများ ဆောင်ရွက်ရာတွင် မိလ္လာအညစ်အကြေးများ စွန့်ထုတ်မည့်စနစ်များ၊ ရေဆိုးပြန်လည် သန့်စင်မှုလုပ်ငန်းများ၊ ရေရယူအသုံးပြုမှုနှင့် ရေစီမံခန့်ခွဲမှု စနစ်များ၊ လေထု၊ ရေထုညစ်ညမ်းမှု နှင့် အသံဆူညံမှု ကာကွယ်ရေး စီမံချက်များ၊ စွမ်းအင် ပြန်လည် အသုံးပြု ထိန်းသိမ်းရေး စနစ်များ ထည့်သွင်းရေးဆွဲ ဆောင်ရွက်ရန်။

(၅) အဆိုပြုလုပ်ငန်းသည် ထိခိုက်ပျက်စီးလွယ်သော ဂေဟစနစ် တည်ရှိရာ ဒေသများနှင့် နီးစပ်ခြင်း၊ သဘာဝဘေးအန္တရာယ် ကျရောက်နိုင်သည့် ဒေသဖြစ်ခြင်း၊ အမျိုးသား ဥယျာဉ် တည်ရှိရာနေရာ ဖြစ်ခြင်းတို့ကြောင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၄ခုနှစ်၊ ဩဂုတ်လ(၁၄)ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ် (၅၀/၂၀၁၄)အရ ပတ်ဝန်းကျင် နှင့် လူမှုရေးထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် လုပ်ငန်း မစတင်မီ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment - EIA) ဆောင်ရွက်ရန်။

(၆) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှု အနည်းဆုံး ဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြည့် လေ့လာမည့် အစီအစဉ် ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး

ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan - EMP) ရေးဆွဲတင်ပြ၍ စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၇) စီမံကိန်း ဆောင်ရွက်မည့်နေရာသည် သဘာဝ ဘေးအန္တရာယ် ကျရောက်နိုင်သည့် နေရာတွင် တည်ရှိသဖြင့် သဘာဝဘေးအန္တရာယ် ကျရောက်နိုင်မှုအပေါ် ကြိုတင်စီစဉ် ထားရှိမည့် အစီအမံများ(Natural Disaster Risk Management Plan)အား ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ်တွင် ထည့်သွင်းရေးဆွဲဆောင်ရွက်ရန်။

(၈) ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေနှင့် စံသတ်မှတ်ချက်များ EIA နှင့် EMP တို့တွင် ဖော်ပြပါရှိသည့် အချက်များအား လိုက်နာမည်ဖြစ်ကြောင်း စီမံကိန်း အဆိုပြုသူ၏ ကတိခံဝန်ချက်ကို EIA အစီရင်ခံစာတွင် ထည့်သွင်းဖော်ပြရန်။

**ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှ အပိုဒ်(၅)ပါ ဆောင်ရွက်ရမည့် ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment - EIA)အစား ပတ်ဝန်းကျင်ဆိုင်ရာ ကနဦးလေ့လာခြင်း (Initial Environmental Examination- IEE) ( ၁၉-၁၂-၂၀၁၄ )ရက်စွဲပါ စာဖြင့် ပြန်လည် အကြောင်းကြားထားပါသည်။**

**( သို့ဖြစ်ပါ၍ ကုမ္ပဏီမှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးအတွက် ပတ်ဝန်းကျင်ဆိုင်ရာ ကနဦးလေ့လာခြင်း (Initial Environmental Examination- IEE) နှင့် ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) အစီရင်ခံစာတို့အား E Guard Environmental Services Co., Ltd. မှ Third Party အဖြစ် ဆောင်ရွက်၍ အဆိုပါ အစီရင်ခံစာတို့အား ၂၀၁၄ ဒီဇင်ဘာလတွင် စတင် ဆောင်ရွက်နေပြီဖြစ်ကြောင်း ကုမ္ပဏီမှ (၂၉-၁၂-၂၀၁၄)ရက်စွဲပါစာဖြင့် တင်ပြထားပါသည်။ )**

(ခ) **ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန (နောက်ဆက်တွဲ-ခ)**

(၁) ကော့သောင်းခရိုင်၊ အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၏ တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့သို့ စိစစ်တင်ပြစာအရ ယခုငှားရမ်းမည့် မြေနေရာများသည် ခင်ညိုကြီးကျွန်းတွင် စုစုပေါင်း ဧရိယာ(၅၅၀)ဧကရှိသည့်အနက် (၂၀) ဧကကိုလည်းကောင်း၊ ဝအလယ်ကျွန်းတွင် စုစုပေါင်း ဧရိယာ(၃၆၅၀) ဧရိယာအနက် (၁၅)ဧကကို လည်း ကောင်း ငှားရမ်းဆောင်ရွက်ခြင်းဖြစ်၍ ဤငှားရမ်းမြေ ဧရိယာကို တိကျစွာ သတ်မှတ်၍ စာချုပ်တွင် နောက်ဆက်တွဲဖြင့် ဖော်ပြသင့်ပါကြောင်း။

(၂) မြေငှားရမ်းခတွင် ဧခင်ညိုကြီးကျွန်းဧက (၂၀)နှင့် ဝအလယ်ကျွန်း (၁၅)ဧက အတွက် (၁)ဧက တစ်နှစ်လျှင် ကျပ်(၆၀၀၀၀) (ကျပ်ခြောက်သောင်း)နှုန်း သတ်မှတ်မှုကို တိုင်းဒေသကြီး အစိုးရအဖွဲ့အနေနှင့် ပြန်လည်စဉ်းစားသင့်ပါကြောင်း။

(၃) ဤလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ခြင်းကြောင့် စာချုပ်ရုပ်စဲခြင်းနှင့် အခြားကိစ္စရပ်များ တွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရန်ဟူသော အချက် ထည့်သွင်းထားခြင်း မရှိ၍ စာချုပ်တွင် ထည့်သွင်း ချုပ်ဆိုရေး စဉ်းစားသင့်ပါကြောင်း။

(၄) နောက်ဆက်တွဲပါအဆောက်အဦ နမူနာဒီဇိုင်းများတွင် အမိုးမှာ အနီရောင်သုံးထား၍ ကမ်းခြေဒေသဟိုတယ်များတွင် သဘာဝပတ်ဝန်းကျင်နှင့် လိုက်လျောညီထွေဖြစ်မည့် အရောင်ရှိသည့် အမိုးကိုသုံးရန်၊ ကမ်းခြေဒေသများ၌ ဟိုတယ် ဆောက်လုပ်ခြင်းဆိုင်ရာ စည်းကမ်းချက်များနှင့်အညီ ဆောင်ရွက် ရန် လိုအပ်ပါကြောင်း။

(၅) လုပ်ငန်း၌ မီးရရှိရေး၊ ရေရရှိရေး၊ ခရီးသည်များ ဝင်/ထွက်မှု (လူဝင်မှုကြီးကြပ်ရေးဆိုင်ရာ)များ၊ ပို့ဆောင်ရေး၊ ဘေးအန္တရာယ် ကင်းရှင်းရေးနှင့် လုံခြုံရေးအတွက် သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ စိစစ်ခွင့်ပြုချက်ဖြင့် အစီအမံများ ကြိုတင် ရေးဆွဲဆောင်ရွက်သင့်ပါကြောင်း။

(၆) အခန်းခနှုန်းထားများတွင် Bungalow Type (Double room) အခန်း(၁)ခန်း အတွက် မြန်မာကျပ်ငွေ(၇၀၀၀၀)(သို့) US$(၉၀)၊ Bungalow Type (Single room) အခန်း(၁)ခန်းအတွက် မြန်မာကျပ်ငွေ(၆၀၀၀၀)(သို့) US$(၆၀) သတ်မှတ်ထားသဖြင့် အသုံးပြုမည့် ပစ္စည်းများပေးအပ်မည့် ဝန်ဆောင်မှုများလည်း လျော်ကန် သင့်တင့်ရန် လိုအပ်ပါကြောင်း။

**( ကုမ္ပဏီမှ ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၏ လမ်းညွှန်များနှင့်အညီ ဆောင်ရွက်ထားရှိမှုအား (၂၄-၁၂-၂၀၁၄) ရက်စွဲပါစာဖြင့် တင်ပြထားပါသည်။ )**

၁၀။ အဆိုပြုလုပ်ငန်းအတွက် နိုင်ငံခြားငွေ အထောက်အထားအဖြစ် ညီနောင်ကုမ္ပဏီဖြစ်သော စုပေါင်းသစ်စက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်၏ နိုင်ငံခြားငွေများမှ သုံးစွဲမည်ဖြစ်ကြောင်း B.O.D အစည်းအဝေး ဆုံးဖြတ်ချက် နှင့်အတူ MICB ဘဏ်၌ (၃၀-၇-၂၀၁၄)နေ့ ငွေ လက်ကျန် အမေရိကန်ဒေါ်လာ (၃၉၅၉.၆၅)ရှိကြောင်း တင်ပြထားပါသည်။ သုံးစွဲမည့် အမေရိကန်ဒေါ်လာ (၀.၀၂)သန်း အတွက် ၁၉.၇၉ % ရှိကြောင်း တင်ပြထားပါသည်။ ကျပ်ငွေ အထောက်အထားအဖြစ် United Hotels and Resorts Co., Ltd. အမည်ဖြင့် Kanbawza Bank ၌ (၁၀-၁၀-၂၀၁၄)နေ့စွဲရှိ

ငွေလက်ကျန် ကျပ်(၇၀၀.၃၀) သန်း ရှိကြောင်းတင်ပြထားပါသည်။ သုံးစွဲမည့် ကျပ်(၅၀၀.၀၀)သန်း အတွက် ငွေကြေး လုံလောက်မှု ရှိကြောင်း တင်ပြထားပါသည်။

၁၁။ အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းချက်များကို လိုက်နာမည်ဖြစ်ကြောင်း၊ အမျိုးသားယဉ်ကျေးမှု အမွေအနှစ်များကို မထိခိုက်စေရန် နိုင်ငံတော်မှ ပြဋ္ဌာန်းချမှတ်ထားသော အမျိုးသား ယဉ်ကျေးမှုဆိုင်ရာ ပြဋ္ဌာန်း သတ်မှတ်ချက်များကို အထူးပြုလိုက်နာမည်ဖြစ်ကြောင်း၊ မီးဘေးကာကွယ်ထားရှိမှု အစီအမံများ ဆောင်ရွက်ထားရှိမည်ဖြစ်ကြောင်း နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်ရေး အစီအမံအဖြစ် Solar Panel များ တပ်ဆင် အသုံးပြုမည် ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၂။ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်းများ သက်သာ ချောင်ချိရေး အစီအစဉ်၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအစဉ်များ၊ အဆိုပြုလုပ်ငန်းအတွက် ကုမ္ပဏီမှ CSR အတွက် အသားတင်အမြတ်၏ ၂ ရာခိုင်နှုန်း သုံးစွဲမည်ဖြစ်ပြီး တနင်္သာရီတိုင်းဒေသကြီးဖွံ့ဖြိုးတိုးတက်ရေးအစီအစဉ်များတွင် ထည့်သွင်း ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၃။ လုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အားကို မဟာဓါတ်အားလိုင်းမှ ရယူသုံးစွဲမည် ဖြစ်ပြီး မဟာဓါတ်အားလိုင်းမှ လျှပ်စစ်ဓါတ်အား မရရှိသည့်အချိန်တွင် 150 H.P(2)Units အသုံးပြု၍ လုပ်ငန်း ဆောင်ရွက် မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၁၁)၊ ပုဒ်မ ၂၀ ပါ (က၊ ဂ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည)အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို ကော်မရှင်သို့ တင်ပြလျှောက်ထားလာလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါသည်။

၁၅။ **စိစစ်တင်ပြချက်**

(က) တနင်္သာရီတိုင်းဒေသကြီးအတွင်းရှိ ကော့သောင်းမြို့နယ်၊ စူငယ်ဘာလိုင်း ကျေးရွာအုပ်စုဠ ဟိုတယ်လုပ်ငန်းဆောင်ရွက်မည့် Cocoon Hotel Company Limited အား ကော်မရှင်၏(၂၉/၂၀၁၄)(၂၆-၁၂-၂၀၁၄)အစည်းအဝေးမှ ခွင့်ပြုပေးခဲ့ပြီး ခွင့်ပြုမိန့်အမှတ် ၁၀၂၀/၂၀၁၅(၁၂-၁-၂၀၁၅)ရက်စွဲဖြင့် ခွင့်ပြုမိန့် ထုတ်ပေးပြီး ဖြစ်ပါသည်။

(ခ) Cocoon Hotel Company Limited မှ မြေအသုံးချမှုပရီမီယံကြေးအဖြစ် မြေတစ်ဧကလျှင် ကျပ် ၁၀,၀၀၀ နှုန်းဖြင့် မြေ (၁၇.၀၀) ဧကအတွက် ကျပ် ၁၇၀,၀၀၀ အား လည်းကောင်း၊ နှစ်စဉ် မြေငှားရမ်းခအဖြစ် တစ်စတုရန်းမီတာလျှင် US$ (၁) ဒေါ်လာနှုန်းဖြင့် (၁၇.၀၀) ဧက (၆၈၇၈၂ စတုရန်းမီတာ)အတွက် တစ်နှစ်လျှင် US$ ၆၈၇၈၂ အား လည်းကောင်း ပေးချေရပါသည်။

(ဂ) ယခု တင်ပြသည့် အဆိုပြု ကုမ္ပဏီမှာ မြေအသုံးချမှု ပရီမီယံကြေးအဖြစ် ကျပ် ၆,၀၀၀,၀၀၀ ပေးသွင်းရမည် ဖြစ်ပြီး မြေငှားရမ်းခအဖြစ် တစ်ဧကလျှင် ကျပ် ၂၀၀၀၀

(ကျပ် နှစ်သောင်း) နှုန်းဖြင့် (၂၀.၀၀) ဧကအတွက် တစ်နှစ်လျှင် စုစုပေါင်း ကျပ် ၄၀၀,၀၀၀ အား နှစ်ကြိမ်ခွဲ၍ ပေးသွင်းရမည်ဖြစ်ပါသည်။

(ဃ) အဆိုပြုလုပ်ငန်းအတွက် လိုအပ်သော အောက်ဖော်ပြပါ ယာဉ်များအား ပြည်ပမှ တင်သွင်းလိုကြောင်း တင်ပြထားပါသည်-

| စဉ် | အမျိုးအမည် | အရေအတွက် | ဈေးနှုန်း(US$) |
|---|---|---|---|
| ၁။ | Mini Bus | ၁ | ၈၀၀၀ |
| ၂။ | Speed Boat | ၁ | ၁၄၅၀၀ |

(င) မြေငှားရမ်းခြင်းစာချုပ်(မူကြမ်း)ပါ အပိုဒ် ၇ တည်ဆောက်ရေးကာလ သတ်မှတ်ချက် နှင့် အပိုဒ် ၈ မြေငှားရမ်းကာလ သတ်မှတ်ခြင်း ဖော်ပြချက်တို့မှာ ဆီလျော်မှု မရှိပါ၍ ပြန်လည်ပြင်ဆင်ပေးရန် နှင့် စာချုပ်(မူကြမ်း)ပါ အချက်အလက်များအား မှန်ကန်မှု ရှိစေရန် လိုအပ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ United Hotels and Resorts Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ကျွန်းစုဒေသ၊ ခေါင်ညိုကြီးကျွန်းရှိ မြေဧရိယာ(၂၀)ဧကတွင် ဟိုတယ်အပန်းဖြေစခန်း ဝန်ဆောင်မှု လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးဇော်မျိုးကျော်(အဘ-ဦးသော်)မှ တနင်္သာရီတိုင်း ဒေသကြီးအစိုးရအဖွဲ့မှတစ်ဆင့် အဆိုပြုချက် တင်ပြခြင်းအပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

M3-456 10/11
NOI-2869 5.11.14

စာအမှတ် ၂/၂၂၀(ခ)(၃/၆)/( ၈၂၅၇ /၂၀၁၄)
ရက်စွဲ ၂၀၁၄ခုနှစ်၊အောက်တိုဘာလ ၃၁ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ United Hotels and Resorts Co., Ltd. မှ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ကျွန်းစုဒေသ၊ ခေါင်ညိုကြီးကျွန်းနှင့် ဝါးအလယ်ကျွန်းတို့၌ ဟိုတယ်အပန်းဖြေစခန်းဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ခွင့် နှင့်ပတ်သက်၍ သဘောထားမှတ်ချက် ပြန်ကြားခြင်းကိစ္စ

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၃-၁၀-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ရက-၄/မ-၁၄၄၈၊၁၄၄၉/၂၀၁၄(၂၄၉)

၁။ United Hotels and Resorts Co., Ltd. ၏ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ကျွန်းစုဒေသ ၊ ခေါင်ညိုကြီးကျွန်းရှိ မြေဧရိယာ (၂၀)ဧက နှင့် ဝါးအလယ်ကျွန်းပေါ်ရှိ မြေဧရိယာ (၁၅)ဧကတို့တွင် ဟိုတယ်အပန်းဖြေစခန်း ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလာခြင်း နှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်သုံးသပ် တင်ပြအပ်ပါသည်-

(က) **မြေအသုံးချမှုစိစစ်ချက်**

ဝါးအလယ်ကျွန်းသည်တောရိုင်းတိရစ္ဆာန်နှင့်သဘာဝအပင်များ ကာကွယ်ရေးနှင့် သဘာဝနယ်မြေများ ထိန်းသိမ်းရေးဥပဒေ(၁၉၉၄)အရ ၂၀-၈ -၁၉၉၆ ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ် (၄၀/၁၉၉၆) ဖြင့် လန်ပိအဏ္ဏဝါ အမျိုးသားဥယျာဉ်အဖြစ် သတ်မှတ်ထုတ်ပြန် ကြေညာထားသည့် သဘာဝနယ်မြေအတွင်း ကျရောက်ပါဝင်နေကြောင်းစိစစ်ဖော်ပြအပ်ပါသည်၊(ပူးတွဲမြေပုံဖော်ပြချက်)

(ခ) **ဥပဒေကြောင်းဆိုင်ရာစိစစ်ချက်**

(၁) သစ်တောဥပဒေ (၁၉၉၄) ပုဒ်မ၁၂ ပုဒ်မခွဲ (က) အရ "မည်သူမဆို သစ်တောနယ်မြေနှင့် သစ်တောဖုံးလွှမ်းလျက်ရှိသည့် အစိုးရကစီမံခန့်ခွဲခွင့်ရှိသော မြေအတွင်း ဖွံ့ဖြိုးမှုလုပ်ငန်း သို့မဟုတ် စီးပွားရေး စီမံကိန်း

လုပ်ငန်း တစ်ရပ်ရပ်ကို လုပ်ကိုင်ဆောင်ရွက်လိုလျှင် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောတူညီချက်ကို ကြိုတင်ရယူရမည်" ပြဋ္ဌာန်းထားသဖြင့် ငခင်ညိုကြီးကျွန်းတွင် ဟိုတယ်အပန်းဖြေစခန်း ဝန်ဆောင်မှုလုပ်ငန်းအား ဆောင်ရွက်ရန် လျှောက်ထားလာခြင်း နှင့်ပတ်သက်၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၏ သဘောတူညီချက် ကြိုတင်ရယူရန် လိုအပ်ကြောင်းဖော်ပြအပ်ပါသည်။

(၂) သဘာဝအပင်များ ကာကွယ်ရေး နှင့် သဘာဝနယ်မြေများ ထိန်းသိမ်းရေးဥပဒေ(၁၉၉၄)အရ သဘာဝနယ်မြေအဖြစ် ထုတ်ပြန် သတ်မှတ်ထားသည့် လန်ပိအဏ္ဏဝါ အမျိုးသားဥယျာဉ်အတွင်း ပါဝင်သည့် ဝါးအလယ်ကျွန်းတွင် ဟိုတယ်အပန်းဖြေစခန်း ဆောက်လုပ်ခြင်း အပါအဝင် မြေအသုံးချမှုများအတွက် ပြည်ထောင်စုအစိုးရအဖွဲ့၏ သဘောတူခွင့်ပြုချက် အရသာ ပြည်ထောင်စုဝန်ကြီးက စိစစ်ခွင့်ပြုနိုင်ကြောင်း ဖော်ပြအပ်ပါသည်။

၂။ အထက်ပါ စိစစ်တွေ့ရှိရချက်များအရ သစ်တောနယ်မြေ၊ သဘာဝနယ်မြေများအတွင်း မြေအသုံးချမှု ဆောင်ရွက်လိုမှုများ နှင့်ပတ်သက်၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာနသို့ ကြိုတင်ညှိနှိုင်း၍ သဘောထားမှတ်ချက် တောင်းခံခြင်း ၊ မြေအသုံးချမှု စိစစ်ခြင်းတို့ကို ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပြီး၊ ဝန်ကြီးဌာနအနေဖြင့်လည်း နိုင်ငံတော် စီးပွားရေးဖွံ့ဖြိုး တိုးတက်မှုဆိုင်ရာကိစ္စ သို့မဟုတ် ဒေသဖွံ့ဖြိုးရေး လုပ်ငန်းဆိုင်ရာ ကိစ္စများအတွက် ဥပဒေ ၊ နည်းဥပဒေများ ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပြည်ထောင်စုအစိုးရအဖွဲ့သို့ တင်ပြခြင်း၊ ခွင့်ပြုချက်ရယူခြင်းများဖြင့်သာ ဆောင်ရွက်လျက်ရှိပါသည်။

၃။ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာန၏ စီမံခန့်ခွဲပိုင်ခွင့်ရှိသော သစ်တောနယ်မြေ နှင့် သဘာဝနယ်မြေများ အတွင်းသာမက ၊ ၎င်းနယ်မြေများ ပြင်ပနယ်နိမိတ်များ၌ အခြားမြေအသုံးချမှုဆိုင်ရာကိစ္စများ ၊ ဖွံ့ဖြိုးရေးနှင့်စီးပွားရေးအလို့ငှာ လုပ်ကိုင်ဆောင်ရွက်လိုသည့် လုပ်ငန်းများနှင့်ပတ်သက်၍လည်း တည်ဆဲဥပဒေများအရ အောက်ပါအချက်များနှင့် ကိုက်ညှိပြီး ဆောင်ရွက်သွားရန် လိုအပ်မည်ဖြစ်ပါကြောင်းအကြံပြု တင်ပြအပ်ပါသည်-

(က) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ။** ကျွန်းစုများပေါ်တွင် ဆောင်ရွက်မည့် လုပ်ငန်းများနှင့်ပတ်သက်၍ ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေရန် နှင့် အဏ္ဏဝါဂေဟစနစ်၊ ပင်လယ်ကျွန်းစုများဂေဟစနစ်တို့အတွက် လုပ်ငန်းအလိုက် EIA, SIA, EMP များကိုကနဦးဆန်းစစ်ခြင်း အပါအဝင် စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါမည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့်

စွန့်ပစ်အညစ်အကြေးများကြောင့် ဖြစ်ပေါ်လာမည့် ညစ်ညမ်းမှုများကို ပြန်လည် ဆောင်ရွက်ပေးခြင်း၊ထိန်းသိမ်းရေးရန်ပုံငွေတစ်ရပ် ထူထောင်ခြင်းတို့ဖြင့် ဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါသည်။

(ခ) **သစ်တောထိန်းသိမ်းရေးဆိုင်ရာ။** ကျွန်းစုများပေါ်ရှိဒီရေတောများနှင့် သဘာဝသစ်တော ၊ သစ်ပင်များ ၊ သစ်ခွများအပါအဝင် သဘာဝအပင်များနှင့် ပတ်သက်၍ ဂေဟစနစ်တည်ငြိမ်ရေး၊ ရာသီဥတုထိန်းညှိခြင်းဆိုင်ရာ တို့အတွက် ပြုစုထိန်းသိမ်းစောင့်ရှောက်ခြင်း၊ ထိခိုက်မှု အနည်းဆုံးဖြစ်စေရေး ရှောင်ကွင်း ဆောင်ရွက်လုပ်ကိုင်မည့် တည်ဆောက်မှုလုပ်ငန်းများဖြစ်ရန် လိုအပ်ပါသည်၊

(ဂ) **ဇီဝမျိုးစုံမျိုးကွဲများထိန်းသိမ်းရေးဆိုင်ရာ။** ကုန်းမြေပေါ် နှင့် အဏ္ဏဝါရေပြင် အတွင်းရှိသဘာဝအပင်များ၊ သားငှက်တိရစ္ဆာန်များ၊ သန္တာကျောက်တန်းများ၊ ယင်းတို့၏ ဂေဟစနစ်များ နှင့် ကျက်စားနယ်မြေများကို ထိခိုက်မှု မရှိစေရေး၊ ပျက်စီးဆုံးရှုံးမှုမရှိစေရေးနည်းလမ်းများထည့်သွင်းဆောင်ရွက်ခြင်းနှင့်Payment for Ecosystem Services (PES) တို့ကိုလိုက်နာဆောင်ရွက်ပေးရန် လိုအပ်ပါသည်။

၄။ ဟိုတယ်အပန်းဖြေစခန်း ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်ခြင်း နှင့် ပတ်သက်၍ အောက်ပါပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှုများ ဖြစ်ပေါ်နိုင်ကြောင်း စီစစ်တွေ့ရှိရပါသည်-

(က) စီမံကိန်း တည်ဆောက်ရေးကာလအတွင်း မြေနေရာရှင်းလင်းခြင်း၊တူးဖော်ရေးလုပ်ငန်းများ ဆောင်ရွက်ခြင်း၊ လုပ်ငန်းသုံး ယာဉ်ယန္တရားများမှ အခိုးအငွေ့များ ထုတ်လွှတ်ခြင်း နှင့် အသံဆူညံမှုဖြစ်ခြင်း ၊ အလုပ်သမားများမှ စွန့်ပစ်ပစ္စည်း/ အရည်/ အစိုင်အခဲများ စွန့်ပစ်ခြင်း နှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင် ရေထု ၊ မြေထု ၊ လေထုညစ်ညမ်းမှု ဖြစ်ပေါ်နိုင်ခြင်း ၊ စီမံကိန်းလုပ်ငန်းကြောင့် ကမ်းရိုးတန်းဒေသ နှင့် ဇီဝမျိုးစုံမျိုးကွဲများ အပေါ် ထိခိုက်မှုဖြစ်ပေါ်နိုင်ခြင်း၊

(ခ) စီမံကိန်းလုပ်ငန်းများကြောင့် ပင်လယ်အတွင်းရှိ ငါးမျိုးစိတ်အပါအဝင် ဇီဝမျိုးစုံမျိုးကွဲများ နေထိုင်ကျက်စားသွားလာမှုကို ထိခိုက်နိုင်ခြင်း ၊ ဇီဝမျိုးစုံမျိုးကွဲများ၏ နေရင်းဒေသများ ပျက်စီးနိုင်ခြင်း နှင့် သေကြေပျက်စီးနိုင်ခြင်း ၊ ထို့အပြင် သန္တာကျောက်တန်းများ ပျက်စီးနိုင်ခြင်း ၊ ကမ်းရိုးတန်းနှင့် အဏ္ဏဝါ ဂေဟစနစ်များ ပျက်စီးနိုင်ခြင်း၊

(ဂ) လူမှုရေး ထိခိုက်နိုင်မှုများ အနေဖြင့် စီမံကိန်းလုပ်ငန်း ဆောင်ရွက်ခြင်းကြောင့် ဒေသခံတိုင်းရင်းသားများ၏ ပိုင်နက်မြေများ ၊ ဒေသ၏ သဘာဝ အရင်းအမြစ်များ ၊ မြေအသုံးချမှု နှင့် ဒေသတွင်း စီးပွားရေးလုပ်ငန်းများအား ထိခိုက်မှုရှိနိုင်ခြင်း ၊ ဒေသခံများ၏ ကျန်းမာရေးအပေါ် ထိခိုက်မှုများ ဖြစ်ပေါ်နိုင်ခြင်း။

၅။ သို့ဖြစ်ရာ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ United Hotels & Resort Co., Ltdမှ ဟိုတယ်အပန်းဖြေစခန်း ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်မည် ဆိုပါက အောက်ပါ အချက်များအတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ကြောင်း ဖော်ပြထားပါသည်-

(က) စီမံကိန်းဆောင်ရွက်မည့် နေရာများသည် သစ်တောစိုက်ခင်း ၊ ဒီရေတော၊ သစ်တောကြိုးဝိုင်း၊ ကြိုးပြင်ကာကွယ်တော နှင့် သဘာဝနယ်မြေအတွင်း ကျရောက်ပါက မြေနေရာနှင့်စပ်လျဉ်း၍ သစ်တောဦးစီးဌာန၏ သဘောထား ရယူဆောင်ရွက်ရန်၊

(ခ) စီမံကိန်းဆောင်ရွက်ရာတွင် Eco-Friendly အဖြစ် ဖွံ့ဖြိုးတိုးတက်စေရေး ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်းများနှင့် အခြားဝန်ဆောင်မှုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းလမ်းနှင့် အစီအမံများ ထည့်သွင်းဆောင်ရွက်ရန်၊

(ဂ) အဏ္ဏဝါဇီဝ မျိုးစုံမျိုးကွဲများနှင့် သန္တာကျောက်တန်းများအား ထိခိုက်ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန်အတွက် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ကို ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းပညာများ ၊ နည်းလမ်းများကို အသုံးပြုရန်နှင့် ကျွန်းပေါ်ရှိ ဂေဟစနစ်များအား ထိန်းသိမ်းမည့် လုပ်ငန်းစဉ်များ နှင့် လူမှုဘဝဖွံ့ဖြိုးမှု အစီအမံများ ထည့်သွင်းဆောင်ရွက်ရန်၊

(ဃ) စီမံကိန်းလုပ်ငန်းများ ဆောင်ရွက်ရာတွင် မိလ္လာအညစ်အကြေးများ စွန့်ထုတ်မည့်စနစ်များ ၊ ရေဆိုးပြန်လည် သန့်စင်မှုလုပ်ငန်းများ၊ ရေရယူအသုံးပြုမှုနှင့် ရေစီမံခန့်ခွဲမှုစနစ်များ၊ လေထု၊ ရေထု၊ ညစ်ညမ်းမှု နှင့် အသံဆူညံမှု ကာကွယ် ရေးစီမံချက်များ ၊ စွမ်းအင်ပြန်လည် အသုံးပြု ထိန်းသိမ်းရေး စနစ်များ ထည့်သွင်းရေးဆွဲဆောင်ရွက်ရန်၊

( င ) အဆိုပြု လုပ်ငန်းသည် ထိခိုက်ပျက်စီးလွယ်သော ဂေဟစနစ်တည်ရှိရာဒေသများနှင့် နီးစပ်ခြင်း ၊ သဘာဝဘေးအန္တရာယ် ကျရောက်နိုင်သည့် ဒေသဖြစ်ခြင်း ၊ အမျိုးသားဥယျာဉ် တည်ရှိရာနေရာ ဖြစ်ခြင်းတို့ကြောင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၄ခုနှစ် ၊ ဩဂုတ်လ (၁၄) ရက်စွဲပါအမိန့်ကြော်ငြာစာအမှတ် (၅၀ / ၂၀၁၄) အရ ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့အတွက် လုပ်ငန်းမစတင်မီ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း(Environmental Impact Assessment-EIA)ဆောင်ရွက်ရန်၊

( စ ) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးဆိုင်ရာ ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု အစီအစဉ်၊စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan – EMP ) ရေးဆွဲ တင်ပြ၍ စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) စီမံကိန်းဆောင်ရွက်မည့် နေရာသည် သဘာဝဘေးအန္တရာယ် ကျရောက်နိုင်သည့်နေရာတွင် တည်ရှိသဖြင့် သဘာဝဘေးအန္တရာယ် ကျရောက်နိုင်မှုအပေါ် ကြိုတင်စီစဉ်ထားရှိမည့် အစီအမံများ (Natural Disaster Risk Management Plan) အား ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ်တွင် ထည့်သွင်းရေးဆွဲ ဆောင်ရွက်ရန်၊

( ဇ ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊ နည်းဥပဒေနှင့် စံသတ်မှတ်ချက်များ၊ EIA နှင့် EMP တို့တွင် ဖော်ပြပါရှိသည့် အချက်များအား လိုက်နာမည်ဖြစ်ကြောင်း စီမံကိန်းအဆိုပြုသူ၏ ကတိခံဝန်ချက်ကို EIA အစီရင်ခံစာတွင် ထည့်သွင်းဖော်ပြရန်၊

(ဈ ) စီမံကိန်းဧရိယာအနီး ဒေသခံပြည်သူများနှင့် ဆွေးနွေးညှိနှိုင်းမှုများ၊သဘောထားရယူခြင်းများ ဆောင်ရွက်ရန်၊

(ည) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း ၊ စည်းမျဉ်းစည်းကမ်းများ နှင့်အညီ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်။

၆။ သို့ဖြစ်ပါ၍ တနင်္သာရီတိုင်းဒေသကြီး ၊ မြိတ်ကျွန်းစုဒေသ ၊ ခေင်ညိုကြီးကျွန်းရှိ မြေဧရိယာ (၂၀)ဧကနှင့် ဝါးအလယ်ကျွန်းပေါ်ရှိမြေဧရိယာ(၁၅)ဧကတို့တွင် ဟိုတယ်အပန်းဖြေစခန်း လုပ်ငန်းဆောင်ရွက်လိုမှုနှင့်ပတ်သက်၍ ကုမ္ပဏီအနေဖြင့် အထက်အပိုဒ်(၃)ပါအကြံပြုချက်များ အတိုင်းလိုက်နာဆောင်ရွက်ရန် လိုအပ်ပါကြောင်း ၊ ခေင်ညိုကြီးကျွန်းတွင် ဟိုတယ်အပန်းဖြေ စခန်းလုပ်ငန်းဆောင်ရွက်လိုမှု နှင့်ပတ်သက်၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာ ဝန်ကြီးဌာန၏ သဘောတူညီချက် ကြိုတင်ရယူရန် လိုအပ်ပါကြောင်း နှင့် သဘာဝနယ်မြေ ဖြစ်သည့် လန်ပိအဏ္ဏဝါအမျိုးသားဥယျာဉ်အတွင်း ကျရောက်ပါဝင်နေသည့် ဝါးအလယ်ကျွန်းတွင် ဟိုတယ်အပန်းဖြေစခန်းလုပ်ငန်းဆောင်ရွက်လိုမှုနှင့်ပတ်သက်၍ ခွင့်ပြုပေးနိုင်ခြင်းမရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

(ဝင်းထွန်း)
ပြည်ထောင်စုဝန်ကြီး

မိတ္တူ -ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

# လန်ပိအဏ္ဏဝါအမျိုးသားဥယျာဉ်၏ တည်နေရာနှင့် နယ်နိမိတ်ပြမြေပုံ




98°0'0"E 98°5'0"E 98°10'0"E 98°15'0"E 98°20'0"E

N 11°02′ E 97°59′

N 11°02′ E 98°23′

11°0'0"N

MERGUI DISTRICT

BURMA

ကလရမ်းအော်

ညီပါးအော်

ကာကပ်အော်

LAMPI ISLAND

လခြမ်းအော်

ဝါးကျွန်း

ဘလိုက်အော်

10°55'0"N

ကျောက်မြှုအော်

ကံဇာကြီးကျွန်း

ဆလက်ဂလက်

ဆလူးအော်

ဘဝင်းအော်

M E R

ရေအော်

uHuJ

သင်အော်

မိချောင်းချောင်း

ကာရမ်းအော်

ဝါးအလယ်ကျွန်း

ကိုဖေါကျွန်း

ဘလိုက်အော်

A R C H I P

10°50'0"N

သင်အော်

M E R G U I A R C H I P E L A G O

LAMPI ISLAND

ကာရမ်းအော်

သာကူးအော်

ဘုလက်အော်

သာကူးအော်

N 10°45′ E 97°59′

N 10°45′ E 98°09′

10°45'0"N

ဘုတ်ပြင်းမြို့နယ်

ခဲတောင်အော်

LAMPI ISLAND

လိပ်ဥကျွန်း

လဘီအော်

မကြုဂလက်ရွာ

ဝါးကျွန်း

ဘုတင်ငီအော်

10°40'0"N

ဗိုလ်ချီကျွန်း

ပုလိုမြောင်

ကော့သောင်းမြို့နယ်

M E R G U I A R C H I P E L A G O

ပုလိုမြောင်ဘာဆာ

လင်းရှူးကျွန်း

ဂူကြီးကျွန်း

ပုလိုတူဟန်

10°35'0"N

ရည်ညွှန်းချက်

- မြို့နယ်နယ်နိမိတ်
- အဏ္ဏဝါအမျိုးသားဥယျာဉ်နယ်နိမိတ်
- ကျွန်းနယ်နိမိတ်

ဗိုလ်နက်ကျော်ကျွန်း

N 10°32′ E 98°09′

N 10°32′ E 98°23′

98°0'0"E 98°5'0"E 98°10'0"E 98°15'0"E 98°20'0"E

3 1.5 0 3 6 9 12 Kilometers

# လန်ပိအတ္တာဝါအမျိုးသားဥယျာဉ်၏ တည်နေရာနှင့် နယ်နိမိတ်ပြမြေပုံ

98°0'0"E 98°5'0"E 98°10'0"E 98°15'0"E 98°20'0"E

11°0'0"N 10°55'0"N 10°50'0"N 10°45'0"N 10°40'0"N 10°35'0"N

N 11°02 ' E 97°59 '

E 98°23 '

N 10°45 ' E 97°59 '

N 10°45 ' E 98°09 '

N 10°32 ' E 98°09 '

N 10°32 ' E 98°23 '

ဘုတ်ပြင်းမြို့နယ်

ကော့သောင်းမြို့နယ်

ရည်ညွှန်းချက်

မြို့နယ်နယ်နိမိတ်

အတ္တာဝါအမျိုးသားဥယျာဉ်နယ်နိမိတ်

3 1.5 0 3 6 9 12 Kilometers



Source : Google Earth Satellite Image

## ခေင်ညိုကြီးကျွန်း၏ တည်နေရာအား Google Earth မှ မြင်ရသောပုံ





ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

NPT-5968
၂၃.၁၂.၁၄

စာအမှတ်  ၂/၂၂၀(ခ)(၃)/( ၉၄၇၆ /၂၀၁၄)
ရက်စွဲ  ၂၀၁၄ခုနှစ်၊ဒီဇင်ဘာလ ၁၉ ရက်

M3-648
23/12

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ United Hotels and Resorts Co., Ltd မှ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ကျွန်းစုဒေသ ၊ ခေါင်ညိုကြီးကျွန်း၌ ဟိုတယ်အပန်းဖြေစခန်း လုပ်ငန်းဆောင်ရွက်ခွင့် ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက် ပြန်လည်တင်ပြခြင်း

ရည်ညွှန်းချက်။ (၁)မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏၁၃-၁၀-၂၀၁၄ရက်စွဲပါစာအမှတ်၊ ရက-၄/မ-၁၄၄၈၊ ၁၄၄၉/၂၀၁၄ (၂၄၉)

(၂)ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၊ပြည်ထောင်စုဝန်ကြီးရုံး၏၃၁-၁၀-၂၀၁၄ရက်စွဲပါစာအမှတ်၊၂ /၂၂၀(ခ)(၃/၆) / (၈၂၅၇/၂၀၁၄)

(၃)United Hotels and Resorts Co., Ltd ၏ ၁၆-၁၂-၂၀၁၄ ရက်စွဲပါ တင်ပြစာ

(၄)United Hotels and Resorts Co., Ltd ၏ ၁၆-၁၂-၂၀၁၄ ရက်စွဲပါ တင်ပြစာ

၁။ United Hotels and Resorts Co., Ltd မှ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ကျွန်းစုဒေသ၊ ခေါင်ညိုကြီးကျွန်းရှိ မြေဧရိယာ(၂၀)ဧကနှင့် ဝါးအလယ်ကျွန်းပေါ်ရှိ မြေဧရိယာ (၁၅)ဧကတို့၌ ဟိုတယ်အပန်းဖြေစခန်း ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်း(၁)ပါစာဖြင့် သဘောထားမှတ်ချက် တောင်းခံခြင်းအပေါ် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနမှ ရည်ညွှန်း(၂)ပါစာဖြင့် ခေါင်ညိုကြီးကျွန်းတွင်ဟိုတယ်အပန်းဖြေစခန်းဆောက်လုပ်ခွင့်အား ဤပြည်ထောင်စုဝန်ကြီးဌာန၏ သဘောတူညီချက် ကြိုတင်ရယူရန် လိုအပ်ပါကြောင်း၊ သဘာဝ နယ်မြေဖြစ်သည့် လန်ပိအဏ္ဏဝါအမျိုးသားဥယျာဉ်အတွင်း ကျရောက်နေသည့် ဝါးအလယ်ကျွန်းတွင် ဟိုတယ်အပန်းဖြေစခန်း လုပ်ငန်း

ဆောင်ရွက်မှုကို ခွင့်မပြုနိုင်ပါကြောင်း နှင့် လုပ်ငန်းဆောင်ရွက်မည့် နေရာသည် ထိခိုက်ပျက်စီးလွယ်သော ဂေဟစနစ်တည်ရှိရာ ဒေသများနှင့် နီးစပ်ခြင်း၊ သဘာဝဘေးအန္တရာယ်ကျရောက်နိုင်သည့်ဒေသဖြစ်ခြင်း၊ အမျိုးသားဥယျာဉ် တည်ရှိရာ နေရာဖြစ်ခြင်းတို့ကြောင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၄ - ၈ - ၂၀၁၄ ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ် (၅၀ / ၂၀၁၄) အရ ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေး တို့အတွက် လုပ်ငန်းမစတင်မီ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း ( Environmental Impact Assessment - EIA ) ဆောင်ရွက်ရန် လိုအပ်ပါကြောင်း ပြန်ကြားခဲ့ပါသည်။

၂။ ယခုအခါ United Hotels and Resorts Co., Ltd မှ တနင်္သာရီတိုင်း ဒေသကြီး၊ မြိတ်ကျွန်းစုဒေသ ၊ ခေါင်ညိုကြီးကျွန်းရှိ မြေဧရိယာ(၂၀)ဧကတွင် ဟိုတယ် နှင့် အပန်းဖြေစခန်း စီမံကိန်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် နှင့် ၎င်းတို့အနေဖြင့် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment -EIA) ရေးဆွဲဆောင်ရွက်ရန် အခက်အခဲရှိပါသဖြင့် ခေါင်ညိုကြီးကျွန်းတွင် ဆောင်ရွက်မည့် ဟိုတယ် နှင့် အပန်းဖြေစခန်း စီမံကိန်းအတွက် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination - IEE) နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP) တို့ကိုရေးဆွဲ ဆောင်ရွက်မည်ဖြစ်ပြီး ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာနမှ သဘောတူခွင့်ပြုပေးနိုင်ပါရန် ရည်ညွှန်း(၃)ပါစာဖြင့်တင်ပြလာပါသည်။

၃။ ထို့ပြင် အဆိုပါ ကုမ္ပဏီမှ ရည်ညွှန်းချက်(၄)ပါစာဖြင့် ခေါင်ကြီးကျွန်းတွင် ဟိုတယ်နှင့် အပန်းဖြေစခန်း လုပ်ကိုင်ဆောင်ရွက်ရန် သဘောတူခွင့်ပြုချက် တင်ပြတောင်းခံလာခြင်း ကိစ္စနှင့် ပတ်သက်၍ သစ်တောဦးစီးဌာနမှ စီစစ်ရာတွင် အဆိုပြု မြေနေရာသည် ကြိုးဝိုင်း / ကြိုးပြင် ကာကွယ်တောများအတွင်း ကျရောက်ခြင်းမရှိဘဲ ကော့သောင်းမြို့နယ် ၊ ဇာဒက်ကြီးကျေးရွာအုပ်စု၊ ခေါင်ညိုကြီးကျွန်း၌ တည်ရှိပြီး ဧရိယာ(၂၀)ဧကခန့် ကျယ်ဝန်း၍ အခြားမြေအသုံးချမှုများ မရှိခြင်း ၊ သဘာဝအလျောက် ပေါက်ရောက်နေသော အပင်ငယ်များသာ တွေ့ရှိရခြင်း တို့ကြောင့် လုပ်ငန်း ဆောင်ရွက်ရာတွင် သစ်တောသစ်ပင်များကို ခုတ်ထွင်ရှင်းလင်းဖယ်ရှားမှု ပြုလုပ်ခြင်း မရှိပါက ကန့်ကွက်ရန် မရှိပါ။

၄။ United Hotels and Resorts Co., Ltd ရည်ညွှန်း(၃)ပါစာဖြင့် တင်ပြချက်တွင် ဧက (၅၅၀)ရှိသည့် ခေါင်ညိုကြီးကျွန်း၌ ဟိုတယ်နှင့်အပန်းဖြေစခန်းတည်ဆောက်ရန် မြေဧရိယာ (၂၀) ဧကကိုသာ တင်ပြထားပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၄-၈-၂၀၁၄ ရက်စွဲပါ

အမိန့်ကြော်ငြာစာအမှတ် (၅၀/၂၀၁၄) အရ EIA ဆောင်ရွက်ရန်မလိုအပ်ဘဲ ၊ IEE နှင့် EMP ကိုသာဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါသည်။

၅။ သို့ဖြစ်ပါ၍ ငခင်ညိုကြီး ကျွန်းပေါ်တွင် ဧက(၂၀)ရှိ ဟိုတယ် နှင့် အပန်းဖြေစခန်း တည်ဆောက်မည့် စီမံကိန်းနှင့်ပတ်သက်၍ ကန့်ကွက်ရန် မရှိပါကြောင်းနှင့် လုပ်ငန်းဆောင်ရွက်ရာတွင် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (IEE) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (EMP) တို့ကိုသာ ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက်အား ပြန်လည်ပြင်ဆင် ပေးပို့အပ်ပါသည်။

(ဝင်းထွန်း)
ပြည်ထောင်စုဝန်ကြီး

မိတ္တူကို

-ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
-အုပ်ချုပ်မှုဒါရိုက်တာ၊ United Hotels and Resorts Co., Ltd



# United Hotels & Resorts Co., Ltd .




ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး
ရန်ကုန်မြို့

M3-656
24/12

ရက်စွဲ။ ။ ၂၀၁၄ ခုနှစ်၊ ဒီဇင်ဘာ လ၊ (၂၄)ရက်၊

**အကြောင်းအရာ။ ။ ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Management Plan-EMP) ပြုလုပ်ရန်တင်ပြခြင်းကိစ္စ။**

**ရည်ညွှန်းချက် ။ ။ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန(၁၉.၁၂.၂၀၁၄) ရက်စွဲပါစာအမှတ် ၂/ ၂၂၀ (ခ) (၃)/(၉၄၇၆/ ၂၀၁၄)**

တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ကျွန်းစုဒေသ၊ ခေင်ညိုကြီးကျွန်းရှိ မြေဧရိယာ (၂၀)ဧကတွင် ဟိုတယ်နှင့်အပန်းဖြေစခန်းစီမံကိန်း လုပ်ငန်းဆောင်ရွက်ရန်အတွက် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Management Plan-EMP) အား ဆောင်ရွက်ရန် E Guard Environmental services Co., Ltd. နှင့် ၂၀၁၄ ခုနှစ်၊ ဒီဇင်ဘာလ၊ (၂၀)ရက်နေ့တွင် သဘောတူ စာချုပ်ချုပ်ဆိုခဲ့ပြီး၊ ၂၀၁၄ ခုနှစ်၊ ဒီဇင်ဘာလ၊ (၂၄)ရက်နေ့တွင် လုပ်ငန်းများစတင်ဆောင်ရွက်နေပြီဖြစ်ကြောင်း တင်ပြအပ်ပါသည်။

အဆိုပါလုပ်ငန်းစဉ်များနှင့်ပတ်သက်သည့် အစီရင်ခံစာကို ၂၀၁၅ခုနှစ်၊ မေလ၊ (၃၀)ရက်နေ့တွင် ပေးပို့နိုင်ရန်ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

( ဇော်မျိုးကျော် )
အုပ်ချုပ်မှုဒါရိုက်တာ
စုပေါင်းဟိုတယ်နှင့် အပန်းဖြေစခန်း ကုမ္ပဏီလီမိတက်

မိတ္တူ-
- ပြည်ထောင်စုဝန်ကြီးရုံး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၊
- ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန၊
- ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊သို့

No.123-125, 134-135, Shwe Yin Aye 1st Street, Industrial Zone (5) Extension, HlaingTharYar Township,Yangon, Myanmar.
Tel : (951) 688202, 688203, Fax : 688201
E-mail : info@unitedwoodindustries.com.mm



**E Guard Environmental Services Company Limited**
No.99, MyaKanThar Lane, NyeinChanYay Street, 10 Miles, Pyay Road, Sawbwargyigone Quarter, Insein Township, Yangon 11011, the Republic of the Union of Myanmar.
Tel: 95 1 667953, 95 9 421108946, Email info@eguardservices.com www.eguardservices.com




သို့

United Hotels & Resorts Co., Ltd.

စာအမှတ် ။ ။484/ E Guard /UHR/ 2014
ရက်စွဲ ။ ။ ၂၀၁၄ ခုနှစ်၊ ဒီဇင်ဘာလ၊ (၂၄) ရက်၊

အကြောင်းအရာ ။ ။ **လုပ်ငန်းစတင်ဆောင်ရွက်နေပြီဖြစ်ကြောင်း တင်ပြခြင်း၊**

၁။ United Hotels & Resorts Co., Ltd. နှင့် E Guard Environmental Services Co., Ltd. တို့ ၂၀၁၄ခုနှစ်၊ ဒီဇင်ဘာလ(၂၃)ရက်နေ့တွင် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ မြိတ်ကျွန်းစု၊ ခင်ညိုကြီးကျွန်း (Boulder Island)ရှိ မြေဧရိယာ(၂၀)ဧကတွင် အပန်းဖြေစခန်းနှင့် ဟိုတယ်စီမံကိန်း လုပ်ငန်းကိုအကောင်အထည်ဖော်ဆောင်ရွက်ရန်အတွက် the Formulation of Environmental Management Plan (EMP) ရေးဆွဲရန် စာချုပ်ချုပ်ဆို ခဲ့ကြပါသည်။

၂။ ယင်းလုပ်ငန်းများအား ၂၀၁၄ခုနှစ်၊ ဒီဇင်ဘာလ(၂၄)ရက်နေ့တွင်စတင်ဆောင်ရွက်နေပြီဖြစ်ကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

Aye Thiha
Managing Director
E Guard Environmental Services



NPT-2720
30-10-14

နောက်ဆက်တွဲ(ခ)






M3-434
30/10

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၊ ၁၈ ၈ ၂၀၁၄/(၂)/ နပတ ( ၄၆၉၃ )

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ အောက်တိုဘာ လ ၃၀ . ရက်၊

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၃-၁၀-၂၀၁၄) ရက်စွဲပါ စာအမှတ် ရက-၄/မ- ၁၄၄၈၊၁၄၄၉/၂၀၁၄(၂၅၀)

၁။ United Hotels and Resorts Co., Ltd မှ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ကျွန်းစုဒေသ၊ ခင်ညိုကြီးကျွန်းရှိ မြေဧရိယာ (၂၀) ဧကနှင့် ဝအလယ်ကျွန်းရှိ မြေဧရိယာ(၁၅)ဧက တို့တွင် ဟိုတယ် အပန်းဖြေစခန်း ဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင် ရွက်ခွင့်ပြုပါရန်ရင်းနှီးမြှုပ်နှံသူဦးဇော်မျိုးကျော်(အဘ-ဦးသော်)မှတနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ မှတဆင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခဲ့မှုအပေါ် ကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် သဘောထားမှတ်ချက်တောင်းခံလာခြင်းဖြစ်ပါသည်။

၂။ United Hotels and Resorts Co., Ltd သည် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်း ခရိုင်မြိတ်ကျွန်းစုဒေသရှိ ခင်ညိုကြီးကျွန်း၊ ကျွန်းဖီလာနှင့်ဝအလယ်ကျွန်းတို့တွင်သဘာဝအခြေခံခရီး သွားလုပ်ငန်းပိုမိုတိုးတက်စေရန်ရည်ရွယ်၍ကျွန်းများပေါ်တွင်အပန်းဖြေဟိုတယ်တည်ဆောက်ခွင့်ပြုပါ ရန်တင်ပြလာခြင်းအပေါ်၌ဝန်ကြီးဌာနမှတနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့သို့တင်ပြပြီး တိုင်းဒေသ ကြီး၏ သဘောတူခွင့်ပြုချက်ဖြင့် ဆောင်ရွက်ရန်လိုအပ်မည်ဖြစ်ကြောင်း တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့နှင့်သက်ဆိုင်ရာ ကုမ္ပဏီများသို့ အကြောင်းကြားခဲ့ပြီးယခုအခါတွင် ခင်ညိုကြီးကျွန်းတွင် ဧက(၂၀)ရယူ၍ ဘန်ဂလို(၃၀)လုံးဖြင့် လည်းကောင်း၊ ဝအလယ်ကျွန်းတွင် (၁၅)ဧက ရယူ၍ ဘန်ဂလို (၃၁)လုံးဖြင့်လည်းကောင်း အပန်းဖြေဟိုတယ်တည်ဆောက်ရန် အဆိုပြုချက်ကိုတိုင်းဒေသကြီးမှတဆင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြခြင်းဖြစ်ပါသည်။

C-2 -74 Remark -LH

၃။ ငခင်ညိုကြီးကျွန်း၊ ဝအလယ်ကျွန်းမြေနေရာ ငှားရမ်း၍ လုပ်ငန်းဆောင်ရွက်မှုအပေါ် ကော်မရှင်မှ ဝန်ဆောင်မှုနှုန်းထားများနှင့်ဟိုတယ်လုပ်ငန်းဆိုင်ရာများနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်အပေါ်အောက်ပါအတိုင်း စိစစ်၍တင်ပြအပ်ပါသည်-

(က) ကော့သောင်းခရိုင်၊အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၏ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့သို့ စိစစ်တင်ပြစာအရ ယခုငှားရမ်းမည့်မြေနေရာများသည် ငခင်ညိုကျွန်းတွင် စုစုပေါင်းဧရိယာ(၅၅၀)ဧကရှိသည့်အနက် (၂၀)ဧကကို လည်းကောင်း၊ "ဝ" အလယ်ကျွန်းတွင်စုစုပေါင်းဧရိယာ(၃၆၅၀)ဧရိယာအနက်(၁၅)ဧကကို လည်းကောင်း ငှားရမ်းဆောင်ရွက်ခြင်းဖြစ်၍ ဤငှားရမ်းမြေဧရိယာကို တိကျစွာသတ်မှတ်၍ စာချုပ်တွင် နောက်ဆက်တွဲဖြင့် ဖော်ပြသင့်ပါသည်။

(ခ) မြေငှားရမ်းခတွင်ငခင်ညိုကြီးကျွန်းဧက(၂၀)နှင့်ဝအလယ်ကျွန်း(၁၅)ဧကအတွက် (၁) ဧကတစ်နှစ်လျှင်ကျပ်(၆၀၀၀၀) (ကျပ်ခြောက်သောင်း)နှုန်း သတ်မှတ်မှုကို တိုင်းဒေသကြီးအစိုးရအဖွဲ့အနေနှင့်ပြန်လည်စဉ်းစားသင့်ပါသည်။

(ဂ) ဤလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ခြင်းကြောင့် စာချုပ်ရုပ်စဲခြင်းနှင့် အခြားကိစ္စရပ်များတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရန်ဟူသော အချက်ထည့်သွင်းထားခြင်းမရှိ၍ စာချုပ်တွင် ထည့်သွင်းချုပ်ဆိုရေး စဉ်းစားသင့်ပါသည်။

(ဃ) နောက်ဆက်တွဲပါအဆောက်အဦ နမူနာဒီဇိုင်းများတွင် အမိုးမှာအနီရောင်သုံးထား၍ ကမ်းခြေဒေသဟိုတယ်များတွင် သဘာဝပတ်ဝန်းကျင်နှင့် လိုက်လျောညီထွေဖြစ်မည့် အရောင်ရှိသည့် အမိုးကိုသုံးရန်အပါအဝင် ကမ်းခြေဒေသများ၌ ဟိုတယ်ဆောက်လုပ်ခြင်းဆိုင်ရာ စည်းကမ်းချက်များနှင့် အညီဆောင်ရွက်ရန်လည်း လိုအပ်ပါသည်။

(င) လုပ်ငန်း၌မီးရရှိရေး၊ရေရရှိရေး၊ခရီးသည်များဝင်/ထွက်မှု(လူဝင်မှုကြီးကြပ်ရေးဆိုင်ရာ)များ၊ပို့ဆောင်ရေး ၊ ဘေးအန္တရာယ်ကင်းရှင်းရေးနှင့် လုံခြုံရေးအတွက် သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ စိစစ်ခွင့်ပြုချက်ဖြင့်အစီအမံများကြိုတင်ရေးဆွဲဆောင်ရွက်သင့်ပါသည်။

(စ) အခန်းခနှုန်းထားများတွင် Bungalow Type (Double room)အခန်း(၁)ခန်းအတွက် မြန်မာကျပ်ငွေ(၇၀၀၀၀)(သို့)US$(၉၀ )၊BungalowType (Single room) အခန်း(၁) ခန်းအတွက် မြန်မာကျပ်ငွေ (၆၀၀၀၀) (သို့) US$(၆၀)သတ်မှတ်ထားသဖြင့် အသုံးပြု

မည့်ပစ္စည်းများပေးအပ်မည့် ဝန်ဆောင်မှုများလည်း လျော်ကန်သင့်တင့်ရန်လိုအပ်ပါသည်။

(ဆ) United Hotels and Resorts Co., Ltd မှဆောင်ရွက်မည့်ဟိုတယ်လုပ်ငန်းအတွက် လိုအပ်ချက်အရပြည်ပမှတင်သွင်းမည့်ပစ္စည်းများ၏အခွန်သက်သာခွင့်မှာ ကော်မရှင်၏ အဆုံးအဖြတ်သာရယူရမည်ဖြစ်ပါသည်။

(ဇ) ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ရရှိပြီးပါကဟိုတယ်တည်ဆောက်ခွင့်ပြုမိန့်နှင့်လုပ်ငန်းလိုင်စင်များကို ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနသို့ ဆက်လက်လျှောက်ထားဆောင်ရွက်သွားရန် လိုအပ်ပါသည်။

(ဈ) ဟိုတယ်နှင့်ခရီးသွားလုပ်ငန်းများဆောင်ရွက်ရန်အတွက် ပြဋ္ဌာန်းထားရှိသော ဥပဒေ၊ လုပ်ထုံးလုပ်နည်းအမိန့်များနှင့်အညီ ဆောင်ရွက်သွားရန်လည်း အကြံပြုတင်ပြအပ်ပါသည်။

( ဦးဌေးအောင် )

ပြည်ထောင်စုဝန်ကြီး

မိတ္တူကို

ရုံးလက်ခံ

မျှော



# United Hotels & Resorts Co., Ltd.




သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး
ရန်ကုန်မြို့

M3-655
24/12

ရက်စွဲ။ ။ ၂၀၁၄ ခုနှစ်၊ ဒီဇင်ဘာလ (24)ရက်

**အကြောင်းအရာ။ ။ ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြခြင်း။**

**ရည်ညွှန်းချက် ။ ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၅.၁၁.၂၀၁၄) ရက်စွဲပါ စာအမှတ်၊ ရက–၄/ မ–၁၄၄၈၊၁၄၄၉/၂၀၁၄ (၃၄၇–က)။**

၁။ United Hotels & Resorts Co., Ltd. သည် တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ကျွန်းစုဒေသ၊ ခေါင်ညိုကြီးကျွန်းရှိ မြေဧရိယာ (၂၀) ဧကတွင် ဟိုတယ်နှင့်အပန်းဖြေစခန်း ဝန်ဆောင်မှုလုပ်ငန်းများကို မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့မှတစ်ဆင့် အဆိုပြုချက် တင်ပြခဲ့ပြီးဖြစ်ပါသည်။

၂။ ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်းအပေါ် လိုက်နာဆောင်ရွက်ရန် လိုအပ်မည့်အချက်များအား အောက်ပါအတိုင်းပြင်ဆင်ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

(က) ကော့သောင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၏ တနင်္သာရီတိုင်းအစိုးရအဖွဲ့သို့ စိစစ်တင်ပြစာအရ ယခုငှားရမ်းမည့်မြေနေရာသည် ခေါင်ညိုကြီးကျွန်းတွင် စုစုပေါင်းမြေဧရိယာ (၅၅၀)ဧက ရှိသည့်အနက် (၂၀)ဧကကို ကော့သောင်းမြို့နယ်၊ မြေစာရင်းဦးစီးဌာနနှင့် ကုမ္ပဏီတို့ ကွင်းဆင်း စစ်ဆေးတိုင်းထွာ၍ တည်နေရာပြမြေပုံနှင့် မြေပုံညွှန်း 1097-16 ( A, B, C, D, E, F )သတ်မှတ်၍ နောက်ဆက်တွဲဖြင့်ဖော်ပြပါမည်။ ( မြေပုံပူးတွဲ )

(ခ) မြေငှားရမ်းခတွင် ခေါင်ညိုကြီးကျွန်း ဧက(၂၀)အတွက် (၁)ဧကတစ်နှစ်လျှင် ကျပ် (၆၀၀၀၀) (ကျပ်ခြောက်သောင်း)နှုန်း သတ်မှတ်မှုကို တိုင်းဒေသကြီးအစိုးရအဖွဲ့၏ စီမံမှုအတိုင်း လိုက်နာပါမည်။

(ဂ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြ၍ ခွင့်ပြုချက်ဖြင့်ဆောင်ရွက်ခြင်းကြောင့် စာချုပ် ရုပ်စဲခြင်းနှင့် အခြားကိစ္စရပ်များတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရန်ဟူသော အချက်ထည့်သွင်း၍ စာချုပ်ချုပ်ဆိုရေး ဆောင်ရွက်ပါမည်။

/၂/–သို့


No.123-125, 134-135, Shwe Yin Aye 1st Street, Industrial Zone (5) Extension, HlaingTharYar Township,Yangon, Myanmar.
Tel : (951) 688202, 688203, Fax : 688201
E-mail : info@unitedwoodindustries.com.mm



United Hotels & Resorts Co., Ltd .

(ဃ) နောက်ဆက်တွဲပါ အဆောက်အဦနမူနာ ဒီဇိုင်းတွင် အမိုးများအနီရောင်သုံးထား၍ ကမ်းခြေ ဟိုတယ်များတွင် သဘာဝပတ်ဝန်းကျင်နှင့် လိုက်ရောညီထွေဖြစ်မည့် အမိုးအရောင်အား အစိမ်းရောင်သို့ပြောင်းလဲ၍ ဟိုတယ်ဆောင်လုပ်ခြင်းဆိုင်ရာ စည်းကမ်းချက်များနှင့်အညီ ဆောင်ရွက်ပါမည်။ ( ဓါတ်ပုံပူးတွဲလျှက် )

(င) လုပ်ငန်း၌ မီးရရှိရေး၊ ရေရရှိရေး၊ ခရီးသည်များဝင်/ထွက်မှု (လူဝင်မှုကြီးကြပ်ရေးဆိုင်ရာ)များ ပို့ဆောင်ရေး၊ ဘေးအန္တရာယ်ကင်းရှင်းရေးနှင့် လုံခြုံရေးအတွက် သက်ဆိုင်ရာတိုင်းဒေသကြီး အစိုးရအဖွဲ့၏ စိစစ်ခွင့်ပြုချက်အစီအမံများ လိုက်နာဆောင်ရွက်လုပ်ကိုင်ပါမည်။

(စ) အခန်းနှုန်းထားများအတွက် အသုံးပြုမည့်ပစ္စည်းများပေးအပ်မည့် ဝန်ဆောင်မှုများမှာ အခန်းတွင်း၌ (၁) Television (၂) Mini Bar (၃) Air Conditioner 1.5 HP (၄) Bathroom Accessories (၅) Carpet (၆) Bedoom Accessories များ လျော်ကန်သင့်တင့်စွာ ဝန်ဆောင်မှုပေးပါမည်။

၃။ သို့ဖြစ်ပါ၍ အထက်ပါ အပိုဒ် (၂)ပါအချက်များအား သိရှိနိုင်ပါရန်နှင့် ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်မည့်အစီအစဉ်များအား ပြန်လည်တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

( ဇော်မျိုးကျော် )
အုပ်ချုပ်မှုဒါရိုက်တာ
စုပေါင်းဟိုတယ်နှင့် အပန်းဖြေစခန်း ကုမ္ပဏီလီမိတက်

No.123-125, 134-135, Shwe Yin Aye 1st Street, Industrial Zone (5) Extension, HlaingTharYar Township,Yangon, Myanmar.
Tel : (951) 688202, 688203, Fax : 688201
E-mail : info@unitedwoodindustries.com.mm



# United Hotels & Resorts Co., Ltd .

## တနင်္သာရီတိုင်းဒေသကြီး

## ကော့သောင်းခရိုင်၊ မြိတ်ကျွန်းစုဒေသရှိ

## ခေါင်ညိုကြီးကျွန်း (Boulder Island) တွင်

## မြေငှားရမ်းလုပ်ကိုင်ခွင့်

## အဆိုပြုအစီရင်ခံတင်ပြလွှာ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

တိုင်းဒေသကြီးအစိုးရအဖွဲ့

တနင်္သာရီတိုင်းဒေသကြီး

စာအမှတ်၊ ၀၉၆ /၈၃၉ /၈-၃၉/အဖရ(တနင်္သာရီ)

ရက်စွဲ ၊ ၂၀၁၅ခုနှစ်၊ ဇန်နဝါရီလ ၈ ရက်

A3-034

ဝါ/ဒ. သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့

အကြောင်းအရာ။ **ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၏သဘောထားမှတ်ချက်နှင့် အညီ ပြင်ဆင်တင်ပြရန်ကိစ္စ**

ရည်ညွှန်းချက် ။ (၁) ဤရုံး၏ (၁.၁၀.၂၀၁၄)ရက်စွဲပါစာအမှတ်၊ ၆၃၄၅/ ၇၂၈/၇-၂၈/ အဖရ (တနင်္သာရီ)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၅.၁၁.၂၀၁၄)ရက်စွဲပါစာအမှတ်၊ ရက-၄/ မ-၁၄၄၈/ ၁၄၄၉/ ၂၀၁၄(၃၄၇-က)

(၃) United Hotel and Resorts Co.,Ltd၏ (၈.၁၂.၂၀၁၄)ရက်စွဲပါ တင်ပြစာ

၁။ တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ကျွန်းစုဒေသရှိ ငခင်ညိုကြီးကျွန်း မြေဧရိယာ(၂၀)ဧက ပေါ်တွင် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် United Hotel and Resorts Co.,Ltd တို့ ချုပ်ဆိုမည့် မြေငှားရမ်းခြင်းသဘောတူ စာချုပ်(မူကြမ်း)နှင့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်း ဆိုင်ရာ သဘောတူစာချုပ်(မူကြမ်း)များကို ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ပေးပို့ကာ ဥပဒေအကြံပြု ချက်များ တောင်းခံခဲ့ပြီး ယင်းစာချုပ်(မူကြမ်း)များအား ပြည်ထောင်စုရှေ့နေချုပ်အကြံပြုပြင်ဆင် ထားချက်များနှင့်အညီ လိုက်လျောညီထွေစွာပြင်ဆင်၍ လက်မှတ်ရေးထိုးနိုင်ရေးကို စိစစ်ခွင့်ပြုနိုင် ပါရန် ရည်ညွှန်း(၁)ပါစာဖြင့် စာချုပ်(မူကြမ်း)များကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ပူးတွဲ ပေးပို့ခဲ့ရာ အဆိုပြုလုပ်ငန်းအပေါ် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၏သဘောထား ပြန်ကြားမှုအား ရည်ညွှန်း(၂)ပါစာဖြင့် အကြောင်းကြားလာခဲ့ပါသည်။

၂။ အဆိုပါ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏အကြောင်းကြားချက်ပါ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၏သဘောထားမှတ်ချက်နှင့်စပ်လျဉ်း၍ အောက်ပါအတိုင်းဆောင်ရွက်သွားမည်ဖြစ်ပါသည်-

(က) မြိတ်ကျွန်းစုဒေသရှိ ခင်ညိုကြီးကျွန်း၌ ဟိုတယ်လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာ(၂၀)ဧက၊ မြေပုံအညွှန်း UTM-109716 MM (A-770274, B-772274, C-774273, D-774272, E-772727,F-773274) တိကျစွာ တိုင်းတာပြီးဖြစ်ကြောင်းနှင့် အသုံးပြုမည့်ဧရိယာပြမြေပုံအား ပူးတွဲပေးပို့အပ်ပါသည်။

(ခ) မြေငှားရမ်းခနှင့်ပတ်သက်၍ ခင်ညိုကြီးကျွန်း(၂၀)ဧကတွင် ဟိုတယ်လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်မှုအပေါ် မြေငှားခနှုန်းထားသတ်မှတ်ရာ၌ (၂၅.၇.၂၀၁၄) ရက်နေ့တွင်ကျင်းပပြုလုပ်သော တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ်(၁၄/၂၀၁၄)၊ဆုံးဖြတ်ချက်အပိုဒ်(၆၁)အရ နိုင်ငံသားဖြစ်ပါက အသုံးပြုမည့်မြေဧရိယာ (၁)ဧကအတွက် တစ်နှစ်လျှင် (၂၀၀၀ဝိ/-)နှုန်းဖြင့် သတ်မှတ်ရန်ဆုံးဖြတ်ခဲ့ပြီးဖြစ်ပါသဖြင့် ယခင် ကုမ္ပဏီအားသတ်မှတ်ထားသည့် (၁)ဧကတစ်နှစ်လျှင်(၆၀၀၀ဝိ/-)ကျပ်နှုန်းအစား (၁)ဧကတစ်နှစ်လျှင် (၂၀၀၀ဝိ/)နှုန်းဖြင့် သတ်မှတ်မည်ဖြစ်ပါသည်။

(ဂ) နောက်ဆက်တွဲပါ အဆောက်အဦပုံစံဒီဇိုင်းများတွင် အမိုးမှာ အနီရောင်သုံးထားခြင်းအစား ကမ်းခြေသဘာဝရှုခင်းများနှင့် လိုက်လျောညီထွေဖြစ်စေရန် အစိမ်းရောင်အဖြစ် ပြောင်းလဲသုံးစွဲမည်ဖြစ်ပါသည်။

(ဃ) ဟိုတယ်၌ လျှပ်စစ်မီးရရှိရေးအတွက် ဒီဇယ်အင်ဂျင်စက်အင်အား 150H.P(2) Units အသုံးပြု၍လည်းကောင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးအစီအမံအနေဖြင့် ဘန်ဂလိုများ၏ Lighting အတွက် နေရောင်ခြည်သုံး Solar Panel များ တပ်ဆင်အသုံးပြုသွားမည် ဖြစ်ပါသည်။

(င) ဟိုတယ်၌အသုံးပြုမည့် သောက်သုံးရေနှင့်စပ်လျဉ်း၍ ခင်ညိုကြီးကျွန်းတွင် ရှာဖွေတွေ့ရှိထားပြီးဖြစ်သော ရေချိုအရင်းအမြစ်မှ ထုတ်ယူအသုံးပြုသွားမည် ဖြစ်ပါသည်။

(စ) ဟိုတယ်သို့ လာရောက်တည်းခိုသူများအား ပို့ဆောင်ရေးအတွက် Speed Boat (၁)စီး၊ ကျွန်းပေါ်တွင် Toyota (Coasler)(၁)စီးတို့ဖြင့် ကနဦးဆောင်ရွက်သွားမည်

ဖြစ်ပြီး လာရောက်တည်းခိုသူများ၏ လုံခြုံရေးအတွက် ကျွန်းပေါ်တွင် လုံခြုံရေး ဝန်ထမ်း(၄)ဦးအား ကနဦးခန့်ထားပြီး လိုအပ်ချက်အပေါ်မူတည်၍ ထပ်မံတိုးချဲ့ ခန့်ထားဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(ဆ) ကျွန်းပေါ်သို့ လူဝင်/ လူထွက် ကိစ္စရပ်များနှင့်စပ်လျဉ်း၍ အနေဖြင့် လူဝင်မှုကြီးကြပ် ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာနက ချမှတ်ကျင့်သုံး ဆောင်ရွက်လျက်ရှိ ရှိသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ စိစစ်ဆောင်ရွက်သွား မည်ဖြစ်ပါသည်။

(ဇ) ဟိုတယ်နှင့်အပန်းဖြေစခန်းစီမံကိန်းဆောင်ရွက်ရန်အတွက် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း( Initial Environmental Examination -IEE) နှင့် ပတ်ဝန်းကျင်စီမံ ခန့်ခွဲမှုအစီအစဉ်(Environmental Management Plan –EMP) တို့အား ဆောင်ရွက် ရန်အတွက် E Guard Environmental Service Co.,Ltd နှင့် စာချုပ်ချုပ်ဆိုထား ပြီးဖြစ်ပြီး အစီရင်ခံစာကို (၃၀.၅.၂၀၁၅)ရက်နေ့တွင် ပေးပို့ ဆောင်ရွက်သွားမည်ဖြစ် ပါသည်။

(ဈ) ဟိုတယ်အခန်းခ သတ်မှတ်ထားမှုနှင့်စပ်လျဉ်း၍ အခန်း(၁)ခန်းချင်းအလိုက် အသုံး ပြုမည့်ပစ္စည်းများ၊ ပေးအပ်မည့် ဝန်ဆောင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(က) Television

(ခ) Mini Bar

(ဂ) Air Conditioner 1.5 HP

(ဃ) Bath Room Accessories

(င) Carpet

(စ) Bedroom Accessories

(ည) " စာချုပ်ရပ်စဲသည့်အခါ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရမည်" ဟူ သောအချက်အား မြေငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း)နှင့် တည်ဆောက်၊ လုပ်ကိုင်၊လွှဲပြောင်းခြင်းဆိုင်ရာသဘောတူစာချုပ်(မူကြမ်း)များ၌ ထည့်သွင်းထားပြီး ဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ သိရှိနိုင်ပါရန်နှင့် လိုအပ်သလိုစိစစ်ခွင့်ပြုပေးနိုင်ပါရန် တင်ပြအပ်ပါသည်။

**ပူးတွဲပါ** - တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ်(မူကြမ်း) } ( ၃ ) အုပ်
မြေငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ်(မူကြမ်း)
ငှားရမ်းအသုံးပြုမည့်ဧရိယာပြမြေပုံ ( ၁ ) ပုံ

ဝန်ကြီးချုပ်(ကိုယ်စား)
( ဒေါက်တာဝင်းအောင်၊ စိုက်ပျိုးရေးနှင့်မွေးမြူရေးဝန်ကြီး )

မိတ္တူကို

ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၊ နေပြည်တော်
United Hotel and Resorts Co.,Ltd ၊ ရန်ကုန်မြို့
လက်ခံစာတွဲ
မျှောစာတွဲ

ဇာဒက်ကြီးကျေးရွာအုပ်စု၊ ၉ စင်ညိုကြီးကျွန်းတွင် United Hotel & Resort Co.,ltd မှ

အပန်းဖြေဟိုတယ်တည်ဆောက်ရန် လျှောက်ထားသည့်တည်နေရာပြမြေပုံကြမ်း




ဇာဒက်ကြီးကျေးရွာအုပ်စု
ကော့သောင်းမြို့




77 78

| ရည်ညွှန်းချက် | |
|---|---|
| လျှောက်ထားသည့်မြေနေရာ | (၂၀)ဧက |
| မြေအမျိုးအစား | တောရိုင်းမြေ |

မြေပုံညွှန်း
1097 16
A - 770274
B - 772274
C - 774273
D - 774272
E - 772727
F - 773274

ဦးမျိုးမြင့်နိုင်
မြေတိုင်း(၄)မြေစာရင်း
မြို့နယ်မြေစာရင်းဦးစီးဌာန
ကော့သောင်းမြို့

(အောင်ထွေး)
လက်ထောက်ဦးစီးမှူး
မြို့နယ်မြေစာရင်းဦးစီးဌာန
ကော့သောင်းမြို့။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

တိုင်းဒေသကြီးအစိုးရအဖွဲ့

တနင်္သာရီတိုင်းဒေသကြီး




စာအမှတ်၊ ဖြ၃၄၅ /၇၂၈/၇-၂၈/အဖရ (တနင်္သာရီ)

ရက်စွဲ ၂၀၁၄ ခုနှစ်၊ အောက်တိုဘာလ ၁ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့

အကြောင်းအရာ။ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် United Hotel and Resorts Co.,Ltdတို့ချုပ်ဆိုမည့် မြေငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်(မူကြမ်း)နှင့်တည်ဆောက်၊ လုပ်ကိုင်၊လွှဲပြောင်းခြင်းဆိုင်ရာသဘောတူစာချုပ်(မူကြမ်း)များကို စိစစ်ခွင့်ပြုပေးနိုင်ပါရန်ကိစ္စ

ရည် ညွှန်း ချက်။ (၁) ဤရုံး၏ (၁၃.၆.၂၀၁၄) ရက်စွဲပါစာအမှတ်၊ ၂၈၉၆/ ၇၂၈/ ၇-၂၈/ အဖရ(တနင်္သာရီ)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၈.၇.၂၀၁၄) ရက်စွဲပါ စာအမှတ်၊ ၇က-၆(က)/ပ-ထွေ/ ၂၀၁၄(၇၁၁၉-က)

၁။ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ မြိတ်ကျွန်းစုဒေသရှိ (ခေင်ညိုကြီးကျွန်း) မြေဧရိယာ(၂၀)ဧကပေါ်တွင် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် United Hotel and Resorts Co.,Ltdတို့ချုပ်ဆိုမည့် မြေငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်(မူကြမ်း)နှင့် တည်ဆောက်၊လုပ်ကိုင်၊လွှဲပြောင်းခြင်းဆိုင်ရာသဘောတူစာချုပ်(မူကြမ်း)များကို ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ပေးပို့ကာဥပဒေအကြံပြုချက်များတောင်းခံခဲ့ပြီး ယင်းစာချုပ်(မူကြမ်း)များအား ပြည်ထောင်စုရှေ့နေချုပ်ရုံး၏အကြံပြုပြင်ဆင်ချက်များနှင့် လိုက်လျောညီထွေစွာ ပြင်ဆင်၍ လက်မှတ်ရေးထိုးနိုင်ရေးကို စိစစ်ခွင့်ပြုနိုင်ပါရန် ရည်ညွှန်း(၁)ပါစာဖြင့် စာချုပ်(မူကြမ်း)များကို ပူးတွဲပေးပို့တင်ပြခဲ့ပါသည်။

၂။ အဆိုပါတင်ပြခဲ့ခြင်းနှင့်စပ်လျဉ်း၍ ကော်မရှင်သို့အဆိုပြုချက်များ ပေးပို့တင်ပြမည့် လုပ်ငန်းဖြစ်ပါက ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးမှ စာချုပ်အားလည်းလက်မှတ်ရေးထိုးရမည်ဖြစ်ပါကြောင်း ရည်ညွှန်း(၂)ပါစာဖြင့် အကြောင်းကြားလာပါသည်။

၃။ သို့ဖြစ်ပါ၍ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် United Hotel and Resorts Co.,Ltd တို့ချုပ်ဆိုမည့် မြေငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ်(မူကြမ်း) နှင့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ်(မူကြမ်း)များကို စိစစ်ပြီး

Com3>d>pnn1>728^7-28

ခွင့်ပြုပေးနိုင်ပါရန် United Hotel and Resorts Co.,Ltd၏ [illegible]ိုပြုလွှာနှင့်အတူ စာချုပ်(မူကြမ်း)များ ပူးတွဲ၍ ပေးပို့တင်ပြအပ်ပါသည်။

ပူးတွဲပါ - တည်ဆောက်လုပ်ကိုင်လွှဲပြောင်းခြင်းဆိုင်ရာသဘောတူစာချုပ်(မူကြမ်း) } (၃) အုပ်
- မြေငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း) }
- United Hotel and Resorts Co.,Ltd၏ အဆိုပြုလွှာ }
- ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ အကြံပြုလွှာ (၂) စောင်

ဝန်ကြီးချုပ်(ကိုယ်စား)
(တင်သိန်း၊ အတွင်းရေးမှူး)

မိတ္တူကို
United Hotel and Resorts Co.,Ltd၊ ရန်ကုန်မြို့
လက်ခံစာတွဲ
မျှောစာတွဲ




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

တိုင်းဒေသကြီးအစိုးရအဖွဲ့

တနင်္သာရီတိုင်းဒေသကြီး

စာအမှတ်၊ ၂၈၉၆ /၇၂၈/၇-၂၈/အဖရ(တနင်္သာရီ)

ရက် စွဲ ၊ ၂၀၁၄ ခုနှစ်၊ ဇွန်လ ၃ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

အကြောင်းအရာ။ ကော့သောင်းမြို့နယ်၊ ခေါင်ညိုကြီးကျွန်းနှင့်ဝအလယ်ကျွန်းတို့တွင် ဟိုတယ်တည်ဆောက်မည့် United Hotel and Resorts Co., Ltd တို့အကြား ချုပ်ဆိုမည့် မြေငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း)နှင့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာသဘောတူစာချုပ်(မူကြမ်း)များကို စိစစ်ခွင့်ပြုပေးနိုင်ပါရန်ကိစ္စ

ရည် ညွှန်း ချက်။ (၁) တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၏ (၄.၄.၂၀၁၄)ရက်စွဲပါစာ အမှတ်၊ ၁၇၈၃/၇၂၈/၇-၂၈အဖရ(တနင်္သာရီ)

(၂) ပြည်ထောင်စုရှေ့နေချုပ်ရုံး၊နေပြည်တော်၏ (၂၈-၄-၂၀၁၄)ရက်စွဲပါစာအမှတ်၊

၂(၅) ၃-၂၃/ နပတ/ ၃၇၁

၁။ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့၏အနောက်မြောက်ဖက်တွင်တည်ရှိသော ခေါင်ညိုကြီးကျွန်းနှင့်ဝအလယ်ကျွန်းတို့ကို တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် United Hotel and Resorts Co., Ltd တို့အကြား ချုပ်ဆိုမည့် မြေငှားရမ်းခြင်းသဘောတူစာချုပ် (မူကြမ်း)နှင့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ်(မူကြမ်း)များကို ရည်ညွှန်း(၁)ပါစာဖြင့် ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ပေးပို့စိစစ်စေခဲ့ရာ ရည်ညွှန်း(၂)ပါစာဖြင့် ဥပဒေအကြံပြုချက်များ ပြန်ကြားလာခဲ့ပါသည်။

၂။ အဆိုပါ မြေငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း)နှင့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာသဘောတူစာချုပ်(မူကြမ်း)များကို ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ အကြံပြုပြင်ဆင်ထားချက်များနှင့် လိုက်လျောညီထွေစွာ ပြန်လည်ပြုစုထားပြီးဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ စာချုပ်ပါအချက်အလက်များအတိုင်း လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်နိုင်ရန်အတွက် လက်မှတ်ရေးထိုးနိုင်ရေးကို စိစစ်ခွင့်ပြုနိုင်ပါရန် စာချုပ်(မူကြမ်း)များ ပူးတွဲလျက်ပေးပို့တင်ပြအပ်ပါသည်။

ပူးတွဲပါ - မြေငှားရမ်းခြင်းသဘောတူစာချုပ်(စာမျက်နှာ၁မှ၉အထိ)၊ (မြေပုံများပူးတွဲလျှက်)
- တည်ဆောက်၊လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာသဘောတူစာချုပ်(မူကြမ်း)(၁မှ၉ထိ)

ဝန်ကြီးချုပ်(ကိုယ်စား)
( တင်သိန်း၊ အတွင်းရေးမှူး )

မိတ္တူကို
- United Hotel and Resorts Co., Ltd ရန်ကုန်မြို့
- လက်ခံစာတွဲ
- မျှောစာတွဲ






ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန

ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန

ရုံးအမှတ် (၃၃) နေပြည်တော်

စာအမှတ်၊ ဂ၅ -ပီ/အိတ်၌( ၁၂၇ )

ရက်စွဲ၊၂၀၁၃ ခုနှစ်၊ဇူလိုင်လ ၂၉ ရက်

အကြောင်းအရာ။ **တနင်္သာရီတိုင်းဒေသကြီး၊ကော့သောင်းခရိုင်၊ဝေခင်ညိုကြီးကျွန်း၊ကျွန်းဖီလာကျွန်းနှင့် ဝအလယ်ကျွန်းများတွင် ဟိုတယ်တည်ဆောက်ရန်ကိစ္စ။**

ရည် ညွှန်း ချက် ။ (၁) ဤဝန်ကြီးဌာန၊ ပြည်ထောင်စုဝန်ကြီး၏ ၁၆-၈-၂၀၁၂ ရက်စွဲပါ စာအမှတ် ၁၈ဃ ၂၀၁၂/ နပတ/၅၂၈၉

ရည် ညွှန်း ချက် ။ (၂) တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၅-၇-၂၀၁၃ ရက်စွဲပါ စာအမှတ် ၄၄၂၅/၅၈၇/၅-၈၇/အဖရ(တနင်္သာရီ)

၁။ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ မြိတ်ကျွန်းစုအတွင်းရှိ (ဝေခင်ညိုကြီးကျွန်း၊ ကျွန်းဖီလာကျွန်းနှင့် ဝအလယ်ကျွန်း) များရှိ စုစုပေါင်း(၅၅)ဧကခန့်ရှိ မြေနေရာများတွင် နှစ်(၃၀) သို့မဟုတ် နှစ်(၆၀) B.O.T စနစ်ဖြင့် သဘာဝအခြေခံခရီးသွားလုပ်ငန်း ပိုမိုတိုးတက်စေရန်၊ ဒေသဆိုင်ရာ အလုပ်အကိုင်အခွင့်အလမ်းများ တိုးပွားလာစေရန်အတွက် အပန်းဖြေဟိုတယ်တည်ဆောက်ခွင့်ကို United Hotel & Resort Co., Ltd မှ အဆိုပြုတင်ပြလာမှုအပေါ် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ခွင့်ပြုချက်လိုအပ်ကြောင်း ရည်ညွှန်း(၁)ပါစာဖြင့် အကြောင်းကြားခဲ့ပါသည်။

၂။ အဆိုပါ ကျွန်း(၃)ကျွန်းသည် အပန်းဖြေဟိုတယ်တည်ဆောက်ရန် သင့်လျော်သည့် ရေမြေအနေအထားရှိခြင်း၊အပန်းဖြေဟိုတယ်တည်ဆောက်ခြင်းဖြင့် နိုင်ငံခြားသား အဝင်/အထွက်များပြားပြီး ခရီးသွားလုပ်ငန်း (Eco Tourism) ပိုမိုဖွံ့ဖြိုးလာမည်ဖြစ်ခြင်း၊ ဒေသအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုဖွံ့ဖြိုးလာမည်ဖြစ်ခြင်းတို့ကြောင့် သဘာဝပတ်ဝန်းကျင်နှင့်သစ်တောသယံဇာတအရင်းအမြစ်များကို ထိခိုက်မှုမရှိစေဘဲ လုပ်ငန်းဆောင်ရွက်မည်ဆိုပါက အနည်းဆုံးဧရိယာကို အသုံးပြုခွင့်ပေးသင့်ပါကြောင်း ရည်ညွှန်းချက်(၂)ပါစာဖြင့် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့က အကြောင်းပြန်ကြားလာပါသည်။

၃။ သို့ပါ၍အဆိုပါကျွန်းများတွင် အပန်းဖြေဟိုတယ်တည်ဆောက်ခွင့်နှင့်ပတ်သက်၍ United Hotel & Resort Co., Ltd အနေဖြင့် မိမိတို့ဆောင်ရွက်လိုသော မြေနေရာနှင့်ပမာဏကို တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့သို့ ဦးစွာတင်ပြသဘောတူညီမှုရယူပြီး ပြဋ္ဌာန်းထားသော လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုအပ်သည့်အချက်အလက်များ ပြည့်စုံစွာပြုစုပြီး မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့အဆိုပြုလွှာ ဆက်လက်တင်ပြဆောင်ရွက်သွားရန် လိုအပ်မည်ဖြစ်ပါကြောင်း အကြောင်းကြားပါသည်။

၄။ ဟိုတယ်တည်ဆောက်ခွင့်ပြုမိန့်နှင့် လုပ်ငန်းဆောင်ရွက်ခွင့် လိုင်စင်ကိစ္စရပ်များနှင့် အခြားလိုအပ်သောပေါင်းစပ်ညှိနှိုင်းမှုများကို ဤဝန်ကြီးဌာနအနေဖြင့် ဆက်လက်ပံ့ပိုးဆောင်ရွက်ပေးသွားပါမည့်အကြောင်း အကြောင်းကြားပါသည်။

(အောင်ဇော်ဝင်း)

ညွှန်ကြားရေးမှူးချုပ်

United Hotel & Resort Co., Ltd

မိတ္တူကို

- ရုံးလက်ခံ/မျှော




ခ ရိုင် အ ထွေ ထွေ အုပ် ချုပ် ရေး ဦး စီး ဌာ န
ကော့သောင်းခရိုင် - ကော့သောင်းမြို့
စာအမှတ် ၊၂၄၅၄ / ၂ /၁၁၃ - ၈/ ခရအ
ရက်စွဲ၊ ၂၀၁၃ခုနှစ်၊ဇွန်လ ၁၉ ရက်

တိုင်းဒေသကြီးအစိုးရအဖွဲ့
တနင်္သာရီတိုင်းဒေသကြီး၊ထားဝယ်မြို့

အကြောင်းအရာ။ အပန်းဖြေဟိုတယ်စီမံကိန်းအတွက်မြေနေရာလျှောက်ထားမှုနှင့်စပ်လျဉ်း၍ စိစစ်တင်ပြခြင်း

ရည် ညွှန်း ချက်။ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၊ထားဝယ်မြို့၏ ၂၂.၅.၂၀၁၃ ရက်စွဲပါစာအမှတ်၊ ၃၁၇၂/ ၅၈၇/ ၅-၈၇/ အဖရ(တနင်္သာရီ)

၁။ ကော့သောင်းခရိုင်၊မြိတ်ကျွန်းစုအတွင်းရှိ(ခေင်ညိုကြီးကျွန်း၊ကျွန်းဖီလာကျွန်းနှင့်ဝအလယ်ကျွန်း)များရှိ မြေနေရာများကို နှစ်(၃၀) သို့မဟုတ် နှစ်(၆၀)(BOT) စနစ်ဖြင့် သဘာဝ အခြေခံ ခရီးသွားလုပ်ငန်း ပိုမိုတိုးတက်စေရန်၊ ဒေသဆိုင်ရာ အလုပ်အကိုင်အခွင့်အလမ်းများ တိုးပွားလာစေရန်အတွက် ၎င်းကျွန်းများတွင် အပန်းဖြေဟိုတယ်တည်ဆောက်ခွင့်ပြုပါရန် United Hotel & Resort Co., Ltd မှ လျှောက်ထားလာသဖြင့် မြေရာဇဝင်အား စိစစ်ပြီး သဘောထား မှတ်ချက်နှင့်တကွ ပြန်လည် တင်ပြရန် ရည်ညွှန်းပါ စာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကိစ္စနှင့် စပ်လျဉ်း၍ မြေစာရင်းဦးစီးဌာန၊ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းနှင့် မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနတို့အားစိစစ်တင်ပြစေခဲ့ရာအောက်ပါအတိုင်း တွေ့ရှိရပါသည်-

(က) ခေင်ညိုကြီးကျွန်း။ ဧရိယာ(၅၅၀)ဧကခန့်ရှိပြီး ကုမ္ပဏီမှ အပန်းဖြေ ဟိုတယ်တည်ဆောက်ရန်လျှောက်ထားမြေမှာ (၂၀)ဧကဖြစ်ကြောင်း၊တောရိုင်းမြေအမျိုးအစားဖြစ်ပြီးတောင်သူများစိုက်ပျိုးမြေ၊လယ်မြေ၊ရွာမြေ၊စားကျက်မြေ၊ဥယျာဉ်မြေ၊တပ်မြေစသည့်ဧရိယာများမရှိဘဲလျှောက်ထားမြေဧရိယာတွင်သဘာဝအလျှောက်ပေါက်ရောက်နေသော သစ်ပင်ငယ်များသာရှိကြောင်း၊ရေမြေအနေအထားမှာ ကျောက်တောင်များဖြင့်ဖွဲ့စည်းထားပြီး အော်တစ်ခုရှိရာ အော်အတွင်းရှိ ရေမှာကြည်လင်ပြီး ရေအောက်တွင် ကျောက်ပန်း၊ ကျောက်ခက်(Coral) များရှိသဖြင့် ခရီးသွား ဧည့်သည်များ ရေငုပ်ရန် ကောင်းမွန်သည့် နေရာဖြစ်ကြောင်း။

(ခ) ကျွန်းဖီလာကျွန်း။ ဧရိယာ(၇၃၁၄)ဧကခန့်ရှိပြီး ကုမ္ပဏီမှ အပန်းဖြေဟိုတယ်ဆောက်လုပ်ရန် လျှောက်ထားမြေမှာ (၂၀)ဧကဖြစ်ကြောင်း၊မြေအမျိုးအစားမှာ တောရိုင်းမြေအမျိုးအစားဖြစ်ပြီး လျှောက်ထားမြေသည် ကျွန်းပေါ်တွင် အခြားသူများ လျှောက်ထားသည့် မြေနှင့် လွတ်ကင်းကြောင်း၊တောင်သူများ၏ စိုက်ပျိုးမြေ၊လယ်မြေ၊

ရွာမြေစားကျက်မြေ၊ဥယျာဉ်မြေ၊တပ်မြေစသည့် ဧရိယာများ မရှိဘဲ လျှောက်ထားမြေ ဧရိယာအတွင်း သဘာဝအလျှောက် ပေါက်ရောက်နေသော သစ်ပင်ငယ်များသာ ရှိကြောင်း၊မြေအနေအထားမှာ သဲသောင်ပြင်များ ကျွန်းပတ်လည်တွင် ရှိပြီး ကြည်လင်သည့်ရေ၊ သန့်ရှင်းသည့် သဲသောင်ပြင်နှင့် ရေအောက်သန္တာ ကျောက်တန်း ( Coral Reef ) များရှိသဖြင့် ခရီးသွား ဧည့်သည်များ ရေငုပ်ခြင်း(Diving) ၊ရေအောက်ကြည့်ရှုခြင်း(Snorkeling ) တို့အတွက် ကောင်းမွန်သည့် နေရာဖြစ်ကြောင်း။

(ဂ) **ဝအလယ်ကျွန်း။** ဧရိယာ(၃၆၅၀)ဧကခန့်ရှိပြီး ကုမ္ပဏီမှ အပန်းဖြေဟိုတယ် ဆောက်လုပ်ရန်အတွက် လျှောက်ထားမြေမှာ (၁၅)ဧကဖြစ်ကြောင်း၊၎င်းကျွန်းသည် သစ်တောရေးရာဝန်ကြီးဌာနမှ ၂၀.၈.၁၉၉၆ရက်စွဲပါအမိန့်ကြော်ငြာစာအမှတ် ၄၀/၉၆ အရ " လန်ပိအမျိုးသားအဏ္ဏဝါဥယျာဉ် " အဖြစ် သဘာဝနယ်မြေသတ်မှတ်ထားသည့် ဧရိယာတွင် ပါဝင်ကြောင်း၊ လျှောက်ထားမြေသည် စိုက်ပျိုးမြေနှင့် လွတ်ကင်းလျက်ရှိကြောင်း၊မြေအနေအထားမှာ အမြဲစိမ်းသစ်တော ဖုံးလွှမ်းလျက်ရှိပြီး ကျွန်းပတ်ဝန်းကျင်တွင် ကြည်လင်သည့်ရေ၊ သန့်ရှင်းသည့် သဲသောင်ပြင်နှင့် ရေအောက်သန္တာကျောက်တန်း( Coral Reef )များနှင့် ရေတက်ချိန် လှိုင်းလုံးကြီးများ ကမ်းခြေသို့ လာရောက်ရိုက်ခတ်မှုများ ရှိသဖြင့် ခရီးသွားဧည့်သည်များ ရေအောက်ကြည့်ရှုခြင်း (Snorkeling)၊လှိုင်းစီးခြင်း(Surfing)တို့အတွက် ကောင်းမွန်သည့် နေရာဖြစ်ကြောင်း။

၃။ အထက်ပါစိစစ်တွေ့ရှိချက်များအရ သက်ဆိုင်ရာကျွန်း(၃)ကျွန်းသည် အပန်းဖြေဟိုတယ် တည်ဆောက်ရန် သင့်လျော်သည့် ရေမြေအနေအထားရှိခြင်း၊ယင်းသို့အပန်းဖြေဟိုတယ်တည်ဆောက်ခြင်းဖြင့် နိုင်ငံခြားသားအဝင်/အထွက်များပြားပြီး ခရီးသွားလုပ်ငန်း ( Eco Tourism ) ပိုမိုဖွံ့ဖြိုးလာမည်ဖြစ်ခြင်း၊ဒေသအတွက်အလုပ်အကိုင်အခွင့်အလမ်းများ ပိုမိုဖွံ့ဖြိုးလာမည်ဖြစ်ခြင်းတို့ကြောင့် သဘာဝပတ်ဝန်းကျင်နှင့် သစ်တောသယံဇာတ အရင်းအမြစ်များ ကိုထိခိုက်မှု မရှိစေဘဲလုပ်ငန်းဆောင်ရွက်မည်ဆိုပါက လိုအပ်သောအနည်းဆုံး ဧရိယာကို အသုံးပြုခွင့် ပေးသင့်ပါကြောင်း တင်ပြအပ်ပါသည်။

**ပူးတွဲပါ။** (၁) လျှောက်ထားသည့်နေရာပြမြေပုံ (၃) ပုံ

(၂) လျှောက်ထားသည့်ကျွန်းပတ်ဝန်းကျင်ပြမြေပုံ (၃) ပုံ

ခရိုင်အုပ်ချုပ်ရေးမှူး

( ကျော်စွာထွန်း ၊ ပ/ ၄၇၆၅ )

မိတ္တူကို

လက်ခံစာတွဲ/မျှောစာတွဲ

ခရိုင် မြေစာရင်း ဦးစီးဌာန
ကော့သောင်းခရိုင်၊ ကော့သောင်းမြို့
စာအမှတ် - ၂၀၄ / မလ - ၄
ရက်စွဲ။ ၂၀၁၃ ခုနှစ်၊ ဇွန်လ (၁၄) ရက်။




သို့
အုပ်ချုပ်ရေးမှူး
ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ကော့သောင်းမြို့

အကြောင်းအရာ ။ စိစစ်တင်ပြရန်ကိစ္စ။

ရည်ညွှန်းချက် ။ (၁) တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး၊ ထားဝယ်မြို့၏ ( ၂၂-၅-၂၀၁၃ ) ရက်စွဲပါစာအမှတ်- ၃၀၇၂ /၅၈၇/၅-၈၇/အဖရ(တနင်္သာရီ)

(၂) ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ကော့သောင်းမြို့၏ (၂၇-၅-၂၀၁၃) ရက်စွဲပါ စာအမှတ်- ၂၂၀၀ / ၄ / ၃၁ - ၃ / ဦး ၁

၁။ အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ ကရသူရိမြို့နယ်ခွဲတို့အတွင်းရှိ ခေင်ညီကြီးကျွန်း၊ ကျွန်းဖီလာကျွန်း၊ ဂအေလယ်ကျွန်းများရှိ မြေနေရာများကို နှစ်(၃၀)သို့မဟုတ် နှစ်(၆၀)(BOT)စနစ်ဖြင့် သဘာဝအခြေခံ ခရီးသွားလုပ်ငန်း ပိုမိုတိုးတက်စေရန်၊ ဒေသဆိုင်ရာ အလုပ်အကိုင် အခွင့်အလမ်းများ တိုးပွားလာစေရန်အတွက် အပန်းဖြေဟိုတယ်တည်ဆောက်ခွင့်ပြုပါရန် United Hotel & Resort Co,Ltd မှ လျှောက်ထားလာသဖြင့် မြေရာဇဝင်အားစိစစ်ပြီး သဘောထားမှတ်ချက်နှင့်တကွ ပြန်လည်တင်ပြရန် အထက်ရည်ညွှန်းပါ စာများဖြင့် အကြောင်းကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ အဆိုပါ လျှောက်ထားမြေအား မြေဟာဥပဒေ၊ လုပ်ထုံးလုပ်နည်းနှင့်အညီ မြေပြင်တွင် ကွင်းဆင်းစိစစ်ပြီး စစ်ဆေးတွေ့ရှိမှု အခြေအနေအား စစ်ဆေးတွေ့ရှိချက်၊ အစီရင်ခံစာ၊ မြေပုံတို့နှင့်အတူ ပူးတွဲပေးပို့ တင်ပြအပ်ပါသည်။

( ထွန်းထွန်းဝင်း )
လက်ထောက်ညွှန်ကြားရေးမှူး
ခရိုင်မြေစာရင်းဦးစီးဌာန
ကော့သောင်းခရိုင်၊ကော့သောင်းမြို့။

မိတ္တူကို
- ရုံးလက်ခံ။



**ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ ဇာဒက်ကြီးကျေးရွာအုပ်စု၊ ခေင်ညိုကြီးကျွန်းတွင်**
**အပန်းဖြေဟိုတယ်တည်ဆောက်လုပ်ကိုင်ခွင့်ပြုပါရန် United Hotel & Resort Co,Ltd မှ**
**လျှောက်ထားလာသည့်ကိစ္စနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်ချက်အစီရင်ခံစာ**

၁။ လျှောက်ထားသည့်မြေသည် ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ ဇာဒက်ကြီးကျေးရွာအုပ်စု၊ ခေင်ညိုကြီးကျွန်းရှိ ခန့်မှန်းမြေပုံညွှန်း-1097/16 ( A-770274, B-772274, C-774273,D-774272,E-772727,F-773274)**အတွင်း၊ ဧရိယာ(၂၀)ဧကရှိ ခေင်ညိုကျွန်း မြေနေရာကို နှစ်(၃၀) သို့မဟုတ် နှစ်(၆၀) (BOT)စနစ်ဖြင့် သဘာဝအခြေခံ ခရီးသွားလုပ်ငန်း** ပိုမိုတိုးတက်စေရန်၊ ဒေသဆိုင်ရာ အလုပ်အကိုင် အခွင့်အလမ်းများ တိုးပွားလာစေရန် အတွက် အပန်းဖြေဟိုတယ်တည်ဆောက် ခွင့်ပြုပါရန် United Hotel & Resort Co,Ltd မှ လျှောက်ထားလာခြင်းဖြစ်ပါသည်။

၂။ လျှောက်ထားသည့်မြေသည် တောရိုင်းမြေအမျိုးအစားဖြစ်ပါသည်။

၃။ လျှောက်ထားသည့် ခေင်ညိုကြီး ကျွန်းတစ်ကျွန်းလုံး၏ဧရိယာမှာ (၅၅၀)ဧကရှိပြီး အပန်းဖြေဟိုတယ် တည်ဆောက်ရန် မြေဧရိယာ(၂၀)ဧကကိုသာ လျှောက်ထားခြင်း ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၄။ လျှောက်ထားသည့် မြေနေရာတွင် မည်သူ **တစ်ဦးတစ်ယောက်မျှ လျှောက်ထားခဲ့ခြင်းမရှိ**ကြောင်း စိစစ်တွေ့ရှိရပါသည်။

၅။ လျှောက်ထားသည့်မြေနေရာတွင် တောင်သူများ၏ စိုက်ပျိုးမြေများပါဝင်မှု မရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

၆။ လျှောက်ထားသောမြေနေရာသည် လယ်မြေ၊ ရွာမြေ၊ စားကျက်မြေ၊ ဥယျာဉ်မြေနှင့် တပ်မြေ ဧရိယာများ ပါဝင်မှုမရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

၇။ **လျှောက်ထားသည့်မြေတွင် သဘာဝအလျှောက် ပေါက်ရောက်နေသော သစ်ပင်ငယ်များရှိပါသည်။**

သို့ဖြစ်ပါ၍ United Hotel & Resort Co,Ltd၏လျှောက်ထားမှုနှင့်ပတ်သက်၍ လျှောက်ထားမြေသည် တောရိုင်းမြေ အမျိုးအစားဖြစ်ခြင်း၊ တောင်သူများစိုက်ပျိုးထားမှုမရှိခြင်း၊ မည်သူတစ်ဦးတစ်ယောက်မျှ လျှောက်ထားမှုမရှိခြင်း၊ လယ်မြေ၊ ရွာမြေ၊ စားကျက်မြေ၊ ဥယျာဉ်မြေနှင့် တပ်မြေဧရိယာများ ပါဝင်မှုမရှိခြင်းတို့ကြောင့် United Hotel & Resort Co,Ltd၏ အပန်းဖြေဟိုတယ်တည်ဆောက်ခွင့်ပြုပါရန် လျှောက်ထားမှုအား ကန့်ကွက်ရန်မရှိကြောင်းဌာန၏ သဘောထားအား အစီ ရင်ခံတင်ပြအပ်ပါသည်။

၁၄/၆/၂၀၁၃

(ထွန်းထွန်းဝင်း)
လက်ထောက်ညွှန်ကြားရေးမှူး
ခရိုင်မြေစာရင်းဦးစီးဌာန
ကော့သောင်းခရိုင်



# United Hotels & Resorts Co., Ltd .



သို့

ဦးဌာန

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်တိုင်းဒေသကြီး

ရန်ကုန်မြို့

ရက်စွဲ။ ။ ၂၀၁၄ ခုနှစ်၊ ဒီဇင်ဘာ လ၊ (၂၉)ရက်၊

**အကြောင်းအရာ။ ။ အသနားခံစာ တင်ပြခြင်း။**

အထက်ပါ အကြောင်းအရာနှင့် ပတ်သက်၍ ကျွန်တော်များ United Hotels & Resorts Co., Ltd. သည် မြန်မာနိုင်ငံသားဥပဒေအရ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ မြိတ်ကျွန်းစုအတွင်းရှိ ခေါင်ညို ကြီးကျွန်းတွင် ဧက (၂၀) အကျယ်အဝန်းရှိသော မြေနေရာတွင် ဟိုတယ်နှင့် ကမ်းခြေအပန်းဖြေစခန်း အဆောက် အဦဆောက်လုပ်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ (၂.၁၀.၂၀၁၄)ရက်နေ့တွင် ခွင့်ပြုမိန့် လျှောက်ထား တင်ပြခဲ့ပါသည်။

ယခုအခါ တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့နှင့်ချုပ်ဆိုမည့် လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူ စာချုပ်နှင့် မြေငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ်တို့တွင် ပြင်ဆင်ချက်များ၊ ဖြည့်စွက်ရန်များ ကျန်ရှိနေ သေးကြောင်း မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အကြောင်းကြားလာခဲ့ပါသည်။

သို့ဖြစ်ပါ၍ အဆိုပါပြင်ဆင်ချက်များ ဆောင်ရွက်နေဆဲကာလတွင် လျှောက်ထားတင်ပြစာအား ( ၂.၁၀.၂၀၁၄ )ရက်နေ့၌ တင်ပြခဲ့ရာ ( ၃၀.၁၂.၂၀၁၄ ) ရက်နေ့၌ ရက်ပေါင်း (၉၀) ပြည့်မည်ဖြစ်ပါသော်လည်း အချိန်မီတင်ပြနိုင်ရန် ဆောင်ရွက်ဆဲကာလဖြစ်နေပါ၍ ပြင်ဆင်ချက်များအား ( ၉.၁.၂၀၁၅ )ရက်နေ့ နောက်ဆုံး ထား၍ တင်ပြပါမည်ဖြစ်ပါကြောင်း အသနားခံတင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

( ဇော်မျိုးကျော် )

အုပ်ချုပ်မှုဒါရိုက်တာ

စုပေါင်းဟိုတယ်နှင့် အပန်းဖြေစခန်း ကုမ္ပဏီလီမိတက်

No.123-125, 134-135, Shwe Yin Aye 1st Street, Industrial Zone (5) Extension, HlaingTharYar Township,Yangon, Myanmar.
Tel : (951) 688202, 688203, Fax : 688201
E-mail : info@unitedwoodindustries.com.mm



# United Hotels & Resorts Co., Ltd .



သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး
ရန်ကုန်မြို့

ရက်စွဲ။ ။ ၂၀၁၄ ခုနှစ် ဖေဖော်ဝါရီ လ၊ (၂၉)ရက်၊

**အကြောင်းအရာ။ ။ ခန့်ထားဝန်ထမ်းများ လစာ အခွန်ကိစ္စ တင်ပြခြင်း။**

ကျွန်တော်များ United Hotels & Resorts Co., Ltd. သည် ငွေကြီးကြီးကျွန်း၌ ဟိုတယ်နှင့် ကမ်းခြေအပန်းဖြေစခန်း စီမံကိန်းဆောက်လုပ်၍ ဝန်ဆောင်မှုလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာတင်ပြခဲ့ရာ Exhibit No. VIII တွင် ဖော်ပြပါရှိသော အဆင့်ဆင့်စီမံ အုပ်ချုပ်သူမှ လုံခြုံရေးဝန်ထမ်းအထိ စုစုပေါင်းအင်အား ( ၆၅ ) ဦးခန့်အား အလုပ်အကိုင်အခွင့်အလမ်းပေး၍ လုပ်ခလစာအသီးသီးတို့အား ခံစားခွင့်အဖြစ်သတ်မှတ်၍ လစဉ် လုပ်အားခလစာငွေ ထုတ်ပေးပါမည်။

သို့ဖြစ်ပါ၍ အဆိုပါ ခန့်ထားဝန်ထမ်းများ၏ လစာအခွန်ကို ကျွန်တော်များ ကုမ္ပဏီမှ စီမံ ဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

( ဇော်မျိုးကျော် )
အုပ်ချုပ်မှုဒါရိုက်တာ
စုပေါင်းဟိုတယ်နှင့် အပန်းဖြေစခန်း ကုမ္ပဏီလီမိတက်

No.123-125, 134-135, Shwe Yin Aye 1st Street, Industrial Zone (5) Extension, HlaingTharYar Township,Yangon, Myanmar.
Tel : (951) 688202, 688203, Fax : 688201
E-mail : info@unitedwoodindustries.com.mm



# United Hotels & Resorts Co., Ltd.



သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး
ရန်ကုန်မြို့

ရက်စွဲ။ ။ ၂၀၁၄ ခုနှစ်၊ ဒီဇင်ဘာ လ၊ (၂၈)ရက်၊

**အကြောင်းအရာ။ ။ လျှပ်စစ်ဓာတ်အား သုံးစွဲမှု အစီအစဉ်တင်ပြခြင်း။**

ကျွန်တော်များ United Hotels & Resorts Co., Ltd. သည် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ မြိတ်ကျွန်းစုဒေသရှိ ခေင်ညိုကြီးကျွန်း၌ ကမ်းခြေအပန်းဖြေစခန်း စီမံကိန်းဆောက်လုပ်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ခွင့်ပြုမိန့်ရရှိနိုင်ရေး တင်ပြ ဆောင်ရွက်လျှက်ရှိပါသည်။

အဆိုပါ ခေင်ညိုကြီးကျွန်း၌ ဟိုတယ်နှင့် ကမ်းခြေအပန်းဖြေစခန်း ဆောက်လုပ်ရာတွင် ဟိုတယ်ဘန်ဂလိုအခန်း (၃၀) ပါရှိသော ဟိုတယ်အဆောက်အဦကို မီးလုံး၊ ပန်ကာ၊ လေအေးပေးစက်၊ TV အစရှိသော လျှပ်စစ်ဓာတ်အား သုံးစွဲမှုအတွက် ကနဦး လျှပ်စစ်ဓာတ်အား လိုအပ်ချက် ခန့်မှန်း 125 KVA (2) Units အတွက် ဒီဇယ်အင်ဂျင်စက်အင်အား 150 H.P (2) Units အသုံးပြု၍ ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်ရန် ထိန်းသိမ်းစီမံဆောင်ရွက်ပါမည်။ နောင်တွင် ပတ်ဝန်းကျင်ထိခိုက်မှုအား ထိန်းသိမ်းကာကွယ်ရေး အစီအမံဖြင့် Solar Panel များ တပ်ဆင်အသုံးပြု၍ ယှဉ်တွဲလျှက်အသုံးပြုပါမည့်အကြောင်း အစီရင်ခံ တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

( ဇော်မျိုးကျော် )
အုပ်ချုပ်မှုဒါရိုက်တာ
စုပေါင်းဟိုတယ်နှင့် အပန်းဖြေစခန်း ကုမ္ပဏီလီမိတက်

No.123-125, 134-135, Shwe Yin Aye 1st Street, Industrial Zone (5) Extension, HlaingTharYar Township, Yangon, Myanmar.
Tel : (951) 688202, 688203, Fax : 688201
E-mail : info@unitedwoodindustries.com.mm



# United Hotels & Resorts Co., Ltd .



သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး
ရန်ကုန်မြို့

ရက်စွဲ။ ။ ၂၀၁၄ ခုနှစ်၊ ဒီဇင်ဘာ လ၊ (၂၉)ရက်၊

**အကြောင်းအရာ။ ။ ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း ( Initial Environmental Examination- IEE) နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Management Plan- EMP) ပြုလုပ်ရန်တင်ပြခြင်းကိစ္စ။**

**ရည်ညွှန်းချက် ။ ။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန(၁၉.၁၂.၂၀၁၄)ရက်စွဲပါစာအမှတ် ၂/၂၂၀ (ခ) (၃)/(၉၄၇၆/၂၀၁၄)**

တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ကျွန်းစုဒေသ၊ ခေါင်ညိုကြီးကျွန်းရှိ မြေဧရိယာ (၂၀)ဧကတွင် ဟိုတယ်နှင့်အပန်းဖြေစခန်းစီမံကိန်း လုပ်ငန်းဆောင်ရွက်ရန်အတွက် ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း ( Initial Environmental Examination – IEE ) နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Management Plan-EMP) အား ဆောင်ရွက်ရန် E Guard Environmental services Co., Ltd. နှင့် ၂၀၁၄ ခုနှစ်၊ ဒီဇင်ဘာလ၊ (၂၀)ရက်နေ့တွင် သဘောတူ စာချုပ်ချုပ်ဆိုခဲ့ပြီး၊ ၂၀၁၄ ခုနှစ်၊ ဒီဇင်ဘာလ၊ (၂၄)ရက်နေ့တွင် လုပ်ငန်းများ စတင်ဆောင်ရွက်နေပြီဖြစ်ကြောင်း တင်ပြအပ်ပါသည်။

အဆိုပါလုပ်ငန်းစဉ်များနှင့်ပတ်သက်သည့် အစီရင်ခံစာကို ၂၀၁၅ခုနှစ်၊ မေလ၊ (၃၀)ရက်နေ့တွင် ပေးပို့နိုင်ရန်ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

( ဇော်မျိုးကျော် )
အုပ်ချုပ်မှုဒါရိုက်တာ
စုပေါင်းဟိုတယ်နှင့် အပန်းဖြေစခန်း ကုမ္ပဏီလီမိတက်

မိတ္တူ -

- ပြည်ထောင်စုဝန်ကြီးရုံး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၊
- ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန၊
- ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊သို့

No.123-125, 134-135, Shwe Yin Aye 1st Street, Industrial Zone (5) Extension, HlaingTharYar Township,Yangon, Myanmar.
Tel : (951) 688202, 688203, Fax : 688201
E-mail : info@unitedwoodindustries.com.mm




**E Guard Environmental Services Company Limited**

**No.99, MyaKanThar Lane, NyeinChanYay Street, 10 Miles, Pyay Road, Sawbwargyigone Quarter, Insein Township, Yangon 11011, the Republic of the Union of Myanmar.**

**Tel: 95 1 667953, 95 9 421108946, Email info@eguardservices.com www.eguardservices.com**

---

သို့

United Hotels & Resorts Co., Ltd.

စာအမှတ် ။ ။ 484/ E Guard /UHR/ 2014

ရက်စွဲ ။ ။ ၂၀၁၄ ခုနှစ်၊ ဒီဇင်ဘာလ၊ (၂၄) ရက်၊

အကြောင်းအရာ ။ ။ လုပ်ငန်းစတင်ဆောင်ရွက်နေပြီဖြစ်ကြောင်း တင်ပြခြင်း။

၁။ United Hotels & Resorts Co., Ltd. နှင့် E Guard Environmental Services Co., Ltd. တို့ ၂၀၁၄ခုနှစ်၊ ဒီဇင်ဘာလ(၂၃)ရက်နေ့တွင် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ မြိတ်ကျွန်းစု၊ ခေင်ညှိုကြီးကျွန်း (Boulder Island)ရှိ မြေဧရိယာ(၂၀)ဧကတွင် အပန်းဖြေစခန်းနှင့် ဟိုတယ်စီမံကိန်း လုပ်ငန်းကိုအကောင်အထည်ဖော်ဆောင်ရွက်ရန်အတွက် Initial Environmental Examination (IEE) & the Formulation of Environmental Management Plan (EMP) ရေးဆွဲရန် စာချုပ်ချုပ်ဆို ခဲ့ကြပါသည်။

၂။ ယင်းလုပ်ငန်းများအား ၂၀၁၄ခုနှစ်၊ ဒီဇင်ဘာလ(၂၄)ရက်နေ့တွင်စတင်ဆောင်ရွက်နေပြီဖြစ် ကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

**Aye Thiha**
**Managing Director**
E Guard Environmental Services





# United Hotels & Resorts Co., Ltd .

သို့

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး
ရန်ကုန်မြို့

ရက်စွဲ။ ။ ၂၀၁၄ ခုနှစ်၊ ဒီဇင်ဘာလ (၂၄ )ရက်

**အကြောင်းအရာ။ ။ ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ဖြင်ဆင်တင်ပြခြင်း။**

**ရည်ညွှန်းချက် ။ ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၅.၁၁.၂၀၁၄) ရက်စွဲပါ စာအမှတ်၊ ရကက-၄/ မ-၁၄၄၈၊၁၄၄၉/၂၀၁၄ (၃၄၇-က)။**

၁။ United Hotels & Resorts Co., Ltd. သည် တနင်္သာရီတိုင်းဒေသကြီး၊ မြိတ်ကျွန်းစုဒေသ၊ ခေါင်ညိုကြီးကျွန်းရှိ မြေဧရိယာ (၂၀) ဧကတွင် ဟိုတယ်နှင့်အပန်းဖြေစခန်း ဝန်ဆောင်မှုလုပ်ငန်းများကို မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့မှတစ်ဆင့် အဆိုပြုချက် တင်ပြခဲ့ပြီးဖြစ်ပါသည်။

၂။ ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်းအပေါ် လိုက်နာဆောင်ရွက်ရန် လိုအပ်မည့်အချက်များအား အောက်ပါအတိုင်းပြင်ဆင်ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

(က) ကော့သောင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၏ တနင်္သာရီတိုင်းအစိုးရအဖွဲ့သို့ စိစစ်တင်ပြစာအရ ယခုဌားရမ်းမည့်မြေနေရာသည် ခေါင်ညိုကြီးကျွန်းတွင် စုစုပေါင်းမြေဧရိယာ (၅၅၀)ဧကရှိသည့်အနက် (၂၀)ဧကကို ကော့သောင်းမြို့နယ်၊ မြေစာရင်းဦးစီးဌာနနှင့် ကုမ္ပဏီတို့ ကွင်းဆင်းစစ်ဆေးတိုင်းထွာ၍ တည်နေရာပြမြေပုံနှင့် မြေပုံညွှန်း 1097-16 ( A, B, C, D, E, F )သတ်မှတ်၍ နောက်ဆက်တွဲဖြင့်ဖော်ပြပါမည်။ ( မြေပုံပူးတွဲ )

(ခ) မြေငှားရမ်းခတွင် ခေါင်ညိုကြီးကျွန်း ဧက(၂၀)အတွက် (၁)ဧကတစ်နှစ်လျှင် ကျပ် (၆၀၀၀၀) (ကျပ်ခြောက်သောင်း)နှုန်း သတ်မှတ်မှုကို တိုင်းဒေသကြီးအစိုးရအဖွဲ့၏ စီမံမှုအတိုင်း လိုက်နာပါမည်။

(ဂ) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြ၍ ခွင့်ပြုချက်ဖြင့်ဆောင်ရွက်ခြင်းကြောင့် စာချုပ်ရုပ်စဲခြင်းနှင့် အခြားကိစ္စရပ်များတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရန်ဟူသော အချက်ထည့်သွင်း၍ စာချုပ်ချုပ်ဆိုရေး ဆောင်ရွက်ပါမည်။

၂/-သို့



United Hotels & Resorts Co., Ltd .

(ဃ) နောက်ဆက်တွဲပါ အဆောက်အဦနမူနာ ဒီဇိုင်းတွင် အမိုးများအနီရောင်သုံးထား၍ ကမ်းခြေဟိုတယ်များတွင် သဘာဝပတ်ဝန်းကျင်နှင့် လိုက်ရောညီထွေဖြစ်မည့် အမိုးအရောင်အား အစိမ်းရောင်သို့ပြောင်းလဲ၍ ဟိုတယ်ဆောင်လုပ်ခြင်းဆိုင်ရာ စည်းကမ်းချက်များနှင့်အညီ ဆောင်ရွက်ပါမည်။ ( ဓါတ်ပုံပူးတွဲလျှက် )

(င) လုပ်ငန်း၌ မီးရရှိရေး၊ ရေရရှိရေး၊ ခရီးသည်များဝင်/ထွက်မှု (လူဝင်မှုကြီးကြပ်ရေးဆိုင်ရာ)များ၊ ပို့ဆောင်ရေး၊ ဘေးအန္တရာယ်ကင်းရှင်းရေးနှင့် လုံခြုံရေးအတွက် သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ စိစစ်ခွင့်ပြုချက်အစီအမံများ လိုက်နာဆောင်ရွက်လုပ်ကိုင်ပါမည်။

(စ) အခန်းနှုန်းထားများအတွက် အသုံးပြုမည့်ပစ္စည်းများပေးအပ်မည့် ဝန်ဆောင်မှုများမှာ အခန်းတွင်း၌ (၁) Television (၂) Mini Bar (၃) Air Conditioner 1.5 HP (၄) Bathroom Accessories (၅) Carpet (၆) Bedoom Accessories များ လျော်ကန်သင့်တင့်စွာ ဝန်ဆောင်မှုပေးပါမည်။

၃။ သို့ဖြစ်ပါ၍ အထက်ပါ အပိုဒ် (၂)ပါအချက်များအား သိရှိနိုင်ပါရန်နှင့် ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ဆောင်ရွက်မည့်အစီအစဉ်များအား ပြန်လည်တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်

( ဇော်မျိုးကျော် )
အုပ်ချုပ်မှုဒါရိုက်တာ
စုပေါင်းဟိုတယ်နှင့် အပန်းဖြေစခန်း ကုမ္ပဏီလီမိတက်

No.123-125, 134-135, Shwe Yin Aye 1st Street, Industrial Zone (5) Extension, HlaingTharYar Township,Yangon, Myanmar.
Tel : (951) 688202, 688203, Fax : 688201
E-mail : info@unitedwoodindustries.com.mm

# PROPOSED MASTER PLAN OF UNITED HOTELS AND RESORTS CO.LTD



# United Hotels & Resorts Co., Ltd.

# Propose Resort Project Area




Lampi Island
Mangrove Lagoon
Bo Cho Island
Shark Cave
Long Beach
Iguana Bay
Great Swinton Island
Nyaung Wee I.
Bo Net Kyaw I.
Island 115
Myanmar
Mergui Archipelago
INVESTIGATOR CHANNEL
Buddha Bay
Macleod Island
Andaman Resort
ZAR DET KYEE KYUNN
Zar Det Nge Kyunn
Ranong
Thailand
Bird-Nest Island
Blue Lagoon
Pirate Island
From Tablamu



# United Hotels & Resorts Co., Ltd.

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့။

ရက်စွဲ။ ။ ၂၀၁၄ ခုနှစ်၊ အောက်တိုဘာလ ( ၁၅ )ရက်။

**အကြောင်းအရာ။** ။ **United Hotels & Resorts Co., Ltd. မှ B.O.T စနစ်ဖြင့် တနင်္သာရီတိုင်းဒေသကြီးအတွင်းရှိ ခေင်ညိုကြီးကျွန်းအား ငှားရမ်း၍ ဘန်ဂလိုပုံစံ ဟိုတယ်အပန်းဖြေစခန်းတည်ဆောက်ခွင့် ပြုရန် ဆောင်ရွက်လျက်ရှိသော လုပ်ငန်းစဉ်များ အစီရင်ခံတင်ပြခြင်း။**

**ရည်ညွှန်းချက်။** ။ **မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး၏ (၈-၇-၂၀၁၄) ရက်စွဲပါ စာအမှတ်-ရက-၆(က)/မ-ထွေ/ ၂၀၁၄ (၇၁၁၉-က)**

၁။ ကျွန်တော်များ **United Hotels & Resorts Co., Ltd.** သည် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ မြိတ်ကျွန်းစုအတွင်း (ခေင်ညိုကြီးကျွန်း)ရှိ စုစုပေါင်း (၂၀)ဧကရှိ မြေနေရာတွင် နှစ်(၃၀) သို့မဟုတ် နှစ်(၅၀) **B.O.T** စနစ်ဖြင့် သဘာဝအခြေခံ ခရီးသွားလုပ်ငန်းဖွံ့ဖြိုး တိုးတက်စေရန်၊ ဒေသဆိုင်ရာ အလုပ်အကိုင် အခွင့်အလမ်းများ တိုးပွားလာစေရန် ရည်ရွယ်၍ အပန်းဖြေဟိုတယ် တည်ဆောက်ခွင့်ရရှိနိုင်ရေး ဆောင်ရွက်လျက်ရှိပါသည်။

၂။ အဆိုပါ ခေင်ညိုကြီးကျွန်းသည် အပန်းဖြေဟိုတယ်တည်ဆောက်ရန် သင့်လျော်သည့် ရေ၊ မြေ အနေအထားရှိခြင်း၊ အပန်းဖြေဟိုတယ်တည်ဆောက်ခြင်းဖြင့် နိုင်ငံခြားသားများ အဝင်အထွက်များပြားပြီး ခရီးသွားလုပ်ငန်း **(Eco Tourism)** ပိုမိုဖွံ့ဖြိုးလာမည်ဖြစ်ခြင်း၊ ဒေသအတွက် အလုပ်အကိုင် အခွင့်အလမ်းများ ပိုမိုဖြစ်ထွန်းလာမည်ဖြစ်ခြင်းတို့ကြောင့် သဘာဝပတ်ဝန်းကျင်နှင့် သစ်တောသယံဇာတ အရင်းအမြစ်များကို ထိခိုက်မှုမရှိစေဘဲ လုပ်ငန်းဆောင်ရွက်မည်ဆိုပါက အနည်းဆုံးရေယာကို အသုံးပြုခွင့်ပေးသင့်ပါကြောင်း တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့က အကြောင်းပြန်ကြားလာပါသည်။

၃။ သို့ပါ၍ ရည်ညွှန်းချက်(၁)ပါ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး၏ အကြောင်းကြားစာအရ အဆိုပြုလွှာလုပ်ငန်းသည် **B.O.T** စနစ်ဖြင့် လုပ်ကိုင်ဆောင်ရွက်မည်ဖြစ်ပါသဖြင့် ဆောင်ရွက်မည့် မြေနေရာနှင့် စပ်လျဉ်း၍ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ လမ်းညွှန် ချက်နှင့်အညီ သက်ဆိုင်ရာ ခရိုင်အထွေထွေ အုပ်ချုပ်ရေးဦးစီးဌာန



United Hotels & Resorts Co., Ltd.

ကော့သောင်းခရိုင်နှင့် ခရိုင်မြေစာရင်းဦးစီးဌာန ကော့သောင်းမြို့တို့၏ စိစစ်အစီရင်ခံ တင်ပြချက်များ ပူးတွဲတင်ပြလျက် တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့နှင့် **United Hotels & Resorts Co., Ltd.** တို့အကြား ချုပ်ဆိုမည့် မြေငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ် (မူကြမ်း)၊ တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာစာချုပ် (မူကြမ်း)တို့အား ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်ပါအတိုင်း ပြင်ဆင်ဆောင်ရွက်ပြီး ဖြစ်ပါသည်။

၄။ ဟိုတယ်ဆောက်လုပ်ခွင့်နှင့် လုပ်ငန်းဆောင်ရွက်ခွင့် လိုင်စင်ကိစ္စရပ်များနှင့် အခြားသောပေါင်းစပ်ညှိနှိုင်းမှုများကိုလည်း ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်း ဝန်ကြီးဌာနအနေဖြင့် ဆက်လက်ပံ့ပိုးဆောင်ရွက်မည့် အကြောင်းကြားစာလည်း ရရှိထားပြီးဖြစ်ပါသည်။

၅။ ကျွန်တော်များ ကုမ္ပဏီအနေဖြင့် ပူးတွဲပါ လုပ်ငန်းအဆင့်ဆင့်အား ပြီးမြောက်စေရန် မြေနှင့်ပတ်သက်သော အထောက်အထား မှတ်တမ်းဓာတ်ပုံအတိုင်းအတာများ တိကျစွာ စိစစ်ပြီးစီးပြီဖြစ်ပါသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ဆက်လက်တင်ပြပြီး၊ လုပ်ထုံးလုပ်နည်းနှင့်အညီ ခွင့်ပြုမိန့် ရရှိနိုင်ရေးအတွက် ရှိသေလေးစားစွာ အစီရင်ခံ တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(ဇော်မျိုးကျော်)
အုပ်ချုပ်မှုဒါရိုက်တာ
စုပေါင်းဟိုတယ်နှင့် အပန်းဖြေစခန်းကုမ္ပဏီလီမိတက်

No. 123-125, 134-135, Shwe Yin Aye 1st Street, Industrial Zone (5) Extension, Hlaing Thar Yar Township, Yangon, Myanmar.
Tel : (951) 688202, 688203, Fax : 688201
E-mail : info@unitedwoodindustries.com.mm



**United Hotels & Resorts Co., Ltd.**

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

ရက်စွဲ။ ။ ၂၀၁၄ ခုနှစ်၊ အောက်တိုဘာလ ( **၁၅** )ရက်။

**အကြောင်းအရာ။ ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များ အကြိုစိစစ်ပေးနိုင်ရန်ပေးပို့ခြင်း။**

အထက်ပါ အကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်များ **United Hotels & Resorts Co., Ltd.** သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၏ အနောက်မြောက်ဘက် ရေမိုင် (၄၃) မိုင်ခန့်အကွာ၊ မြောက်လတ္တီကျု ၁၀ံ၂၇'**N** နှင့် အရှေ့လောင်ဂျီကျု ၉၇ ံ၅၂'**E** တွင် တည်ရှိသော ခင်ညိုကြီးကျွန်းရှိ စုစုပေါင်း မြေဧရိယာ (၂၀)ဧက အကျယ်အဝန်းရှိသော မြေနေရာတွင် ဟိုတယ်အဆောက်အဦ ဆောက်လုပ်၍ ဟိုတယ်လုပ်ငန်း ဆောင်ရွက်လိုပါသဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့် လျှောက်ထားသော ကုမ္ပဏီ ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ ကျွန်တော်တို့ကုမ္ပဏီ၏ လုပ်ငန်းအဆိုပြုလွှာကို လိုအပ်သလို စိစစ်ပေးနိုင်ရန် အတွက် အဆိုပြုလွှာ (၇)စုံကို ပေးပို့တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(ဇော်မျိုးကျော်)
အုပ်ချုပ်မှုဒါရိုက်တာ
စုပေါင်းဟိုတယ်နှင့် အပန်းဖြေစခန်းကုမ္ပဏီလီမိတက်

No. 123-125, 134-135, Shwe Yin Aye 1st Street, Industrial Zone (5) Extension, Hlaing Thar Yar Township, Yangon, Myanmar.
Tel : (951) 688202, 688203, Fax : 688201
E-mail : info@unitedwoodindustries.com.mm

ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ

ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ၏ လုပ်ငန်းဆောင်ရွက်ရန်

# အဆိုပြုချက်

## ( ခေင်ညိုကြီးကျွန်း )

## စုပေါင်းဟိုတယ်နှင့်အပန်းဖြေစခန်းကုမ္ပဏီလီမိတက်

✡✡✡✡✡✡✡✡✡✡

PROPOSAL

OF

THE INVESTOR TO MAKE MYANMAR CITIZENS INVESTMENT

IN THE UNION OF MYANMAR

UNITED HOTELS & RESORTS COMPANY LIMITED



# United Hotels & Resorts Co., Ltd.



သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

ရက်စွဲ။ ။ ၂၀၁၄ ခုနှစ်၊ ဒီဇင်ဘာ လ ( ၂၉ ) ရက်။

အကြောင်းအရာ။ ။ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ (၂၀)အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားခြင်း။

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်များ **United Hotels & Resorts Co., Ltd.** သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၏ အနောက်မြောက်ဘက် ရေမိုင် (၄၃)မိုင်ခန့်အကွာ၊ မြောက်လတ္တီကျု ၁၀ံ ၂၇'N နှင့် အရှေ့လောင်ဂျီကျု ၉၇ံ ၅၂'E တွင် တည်ရှိသော ခေင်ညိုကြီးကျွန်းရှိ စုစုပေါင်း မြေဧရိယာ (၂၀)ဧက အကျယ်အဝန်းရှိသော မြေနေရာတွင် ဟိုတယ်အဆောက်အဦ ဆောက်လုပ်ရန် ဟိုတယ်လုပ်ငန်း ဆောင်ရွက်လိုပါသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

ကျွန်တော်တို့၏ ကုမ္ပဏီလီမိတက်သည် ဟိုတယ်လုပ်ငန်းအတွက်လိုအပ်သော စက်ကိရိယာနှင့် လုပ်ငန်းသုံးပစ္စည်းများကို ပြည်တွင်း၌ပင် ဝယ်ယူတပ်ဆင် ထုတ်လုပ်သွားမည်ဖြစ်ပြီး ဟိုတယ်အခန်း (၃၀)ပါရှိသော ဟိုတယ်အဆောက်အဦးကို အဆင့်မီဆောက်လုပ်သွားမည်ဖြစ်ပါသည်။

ကျွန်တော်တို့၏ ကုမ္ပဏီအနေဖြင့် ရင်းနှီးငွေကျပ်သန်း (၅၀၀)ကို မြန်မာနိုင်ငံ ကျပ်ငွေ၊ အဆောက်အဦ ၊ စက်ကိရိယာပစ္စည်းများဖြင့်လည်းကောင်း ထည့်ဝင်ပြီး ရင်းနှီးမြှုပ်နှံကြမည် ဖြစ်ပါသည်။ ဟိုတယ်လုပ်ငန်းမှ ရရှိလာသော အမြတ်ငွေများကိုလည်း မြန်မာနိုင်ငံတော်အတွင်း ခွင့်ပြုထားသည့်အခြား စီးပွားရေးလုပ်ငန်းများတွင် ပြန်လည်ရင်းနှီးမြှုပ်နှံ ဆောင်ရွက်သွားရန် ရည်ရွယ်ပါသည်။ ကျွန်တော်တို့၏ ကုမ္ပဏီလီမိတက်အနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်လေထု၊ ရေထု ညစ်ညမ်းမှုမဖြစ်စေရန်နှင့် ရေဆိုး ရေညစ်များ မဖြစ်ပွားစေရန်အတွက် လိုအပ်သော ကာကွယ်မှု အစီအစဉ်များကို ပြုလုပ်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

သို့ဖြစ်ပါ၍ နိုင်ငံတော်အတွက် ရသင့်ရထိုက်သော အခွန်ဘဏ္ဍာငွေများ ရရှိစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိစေရန်အတွက်လည်းကောင်း၊



No.123-125, 134-135, Shwe Yin Aye 1st Street, Industrial Zone (5) Extension, HlaingTharYar Township,Yangon, Myanmar.
Tel : (951) 688202, 688203, Fax : 688201
E-mail : info@unitedwoodindustries.com.mm



# United Hotels & Resorts Co., Ltd .

ဟိုတယ်လုပ်ငန်းပညာရပ်များ တိုးပွားစေရန်အတွက် လည်းကောင်း၊ နိုင်ငံသားများ စီးပွားရေးဖွံ့ဖြိုးတက်စေခြင်း အလို့ငှာလည်းကောင်း၊ ကျွန်တော်တို့၏ ကုမ္ပဏီလီမိတက်၏ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့် လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးရန်နှင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်၊ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ (၂၀)အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကိုလည်း ပေးအပ်ပါရန် ရိုသေလေးစားစွာဖြင့် လျှောက်ထားအပ်ပါသည်။

ထို့အပြင် ဟိုတယ်လုပ်ငန်းမှ လုပ်ကိုင်ရရှိလာသော ဝင်ငွေများအပေါ်တွင် ပထမ (၃)နှစ် အတွက် ကုန်သွယ်လုပ်ငန်းခွန် သက်သာခွင့်ပြုရန်အတွက် ဘဏ္ဍာရေးနှင့် အခွန်ဝန်ကြီးဌာနသို့ လျှောက်ထား ခွင့်ပြုပါရန် မေတ္တာရပ်ခံတင်ပြအပ်ပါသည်။

လျှောက်လွှာနှင့်အတူ ဖော်ပြပါအထောက်အထားစာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည်။

(၁)ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ကမကထပြုသူ၏ ဆောင်ရွက်ရန်အဆိုပြုချက်၊

(၂)လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေးအထောက်အထားများ၊

(၃)ကုမ္ပဏီအသင်းအဖွဲ့မှတ်တမ်းနှင့် အသင်းအဖွဲ့စည်းမျဉ်းမူကြမ်းများ၊

(၄)ဘဏ္ဍာရေးအချက်အလက်များနှင့်ပတ်သက်၍ တွက်ချက်မှုဇယားများ၊

လေးစားစွာဖြင့်လျှောက်ထားသူ

(signature)

ဇော်မျိုးကျော်
အုပ်ချုပ်မှုဒါရိုက်တာ
စုပေါင်းဟိုတယ်နှင့် အပန်းဖြေစခန်းကုမ္ပဏီလီမိတက်



No.123-125, 134-135, Shwe Yin Aye 1st Street, Industrial Zone (5) Extension, HlaingTharYar Township,Yangon, Myanmar.
Tel : (951) 688202, 688203, Fax : 688201
E-mail : info@unitedwoodindustries.com.mm



# United Hotels & Resorts Co., Ltd.

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

ရက်စွဲ။ ။ ၂၀၁၄ ခုနှစ်၊ အောက်တိုဘာလ ( ၁၅ )ရက်။

**အကြောင်းအရာ။** ။မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ ကတိဝန်ခံချက်ကို ပေးပို့ခြင်း။

အထက်ပါ အကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်များ **United Hotel & Resorts Co., Ltd.** သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၏ အနောက်မြောက်ဘက် ရေမိုင်(၄၃) မိုင်ခန့်အကွာ၊ မြောက်လတ္တီကျူ ၁၀°၂၇'N နှင့် အရှေ့လောင်ဂျီကျူ ၉၇°၅၂'E တွင် တည်ရှိသော ခင်ညိုကြီးကျွန်းရှိ စုစုပေါင်း မြေဧက (၂၀) ဧက အကျယ်အဝန်းရှိသော မြေနေရာတွင် ဟိုတယ်အဆောက်အဦဆောက်လုပ်၍ ဟိုတယ်လုပ်ငန်း ဆောင်ရွက်လိုပါသဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့် လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

လုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိပါကြောင်းနှင့် အောက်ဖော်ပြပါအချက်များကို သိရှိလိုက်နာမည်ဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

(က) မြေငှားရမ်းခြင်းနှင့်ပတ်သက်၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ဝန်ခံကတိပြုပါသည်။

(ခ) ကျွန်တော်တို့ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် လေထု ရေထုညစ်ညမ်းမှု၊ မီးဘေးအန္တရာယ်များ မဖြစ်ပေါ်စေရန်နှင့် ရေဆိုးရေညစ်များ မဖြစ်စေရန်အတွက် လိုအပ်သော ကြိုတင်ကာကွယ်မှု၊ အစီအမံများကို ပြုလုပ်ဆောင်ရွက်သွားမည်ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပွားစေရန် လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(ဂ) ကျွန်တော်တို့ကုမ္ပဏီအနေဖြင့် ဟိုတယ်လုပ်ငန်းမှရရှိလာသော နိုင်ငံခြားငွေများကို မြန်မာနိုင်ငံရှိ မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ် **(MICB)** သို့မဟုတ် မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ် **(MFTB)** နှင့် နိုင်ငံခြားငွေစာရင်းဖွင့်လှစ်ခွင့် ရရှိထားသော ပုဂ္ဂလိကဘဏ်များထံသို့ လွှဲပို့လက်ခံရယူပြီးမှသာ လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

(ဃ) ကုန်ပစ္စည်းအရောင်းမြှင့်တင်ရေးအတွက် လည်းကောင်း၊ အခကြေးငွေယူ၍ လည်းကောင်း၊ စားသောက်ဆိုင်နှင့် ဟိုတယ်ကြီးများ၌ **Stage Show, Fashion** နှင့် **Model Show** များ ပြုလုပ်ရာတွင် အမျိုးသားယဉ်ကျေးမှုနှင့် ပတ်သက်၍ ထိန်းသိမ်းသွားနိုင်ရေးအတွက် သက်ဆိုင်ရာဌာန အဖွဲ့အစည်းအသီးသီးမှ ညွှန်ကြားချက်များကို သိရှိလိုက်နာ ဆောင်ရွက်မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

လေးစားစွာဖြင့်လျှောက်ထားသူ

(ဖော်မျိုးကျော်)
အုပ်ချုပ်မှုဒါရိုက်တာ
စုပေါင်းဟိုတယ်နှင့်အပန်းဖြေစခန်းကုမ္ပဏီလီမိတက်

No. 123-125, 134-135, Shwe Yin Aye 1st Street, Industrial Zone (5) Extension, Hlaing Thar Yar Township, Yangon, Myanmar.
Tel : (951) 688202, 688203, Fax : 688201
E-mail : info@unitedwoodindustries.com.mm




United Hotels & Resorts Co., Ltd.

## လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်

အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်တို့၏ **United Hotels & Resorts Co., Ltd.** သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့နယ်၊ ခေါင်ညိုကြီးကျွန်းတွင် ဟိုတယ်အဆောက်အဦဆောက်လုပ်၍ ဟိုတယ်လုပ်ငန်း ဆောင်ရွက်မည်ဖြစ်ရာ လုပ်ငန်းခွင် သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်ကို အောက်ဖော်ပြပါအတိုင်း စီစဉ်ထားရှိပါသည်။

၁။ ဝန်ထမ်းများအတွက် ဝန်ထမ်းအိမ်ယာများကို တည်ဆောက်ပေးမည်ဖြစ်ပြီး၊ အိမ်ထောင်သည်၊ လူပျို၊ အပျို ခွဲခြား၍ တည်ဆောက်ပေးပါမည်။

၂။ ဝန်ထမ်းများ အနားယူအပန်းဖြေစေရန် အားကစားကွင်းနှင့် အားကစားလေ့ကျင့်ခန်းမကို တည်ဆောက်ပေးပါမည်။

၃။ ဝန်ထမ်းများ ဗဟုသုတ အသိဉာဏ်ပညာ တိုးပွားရရှိစေရန် စာကြည့်တိုက်တစ်ခု ဖွင့်လှစ်ပေးပါမည်။ အခါအားလျော်စွာ ဗဟုသုတတိုးပွားစေမည့် သင်တန်းများလည်း ဖွင့်လှစ်ပို့ချနိုင်ရန် စီစဉ်ဆောင်ရွက်ပါမည်။

၄။ ကျန်းမာရေးစောင့်ရှောက်မှုနှင့် ပဏာမကုသမှု လုပ်ငန်းဆောင်ရွက်နိုင်ရန် ကျန်းမာရေးဆေးခန်းနှင့် အကြောင်းအမျိုးမျိုးကြောင့် အရေးပေါ်လူနာဖြစ်ပေါ်ပါက အချိန်မီ ဆေးဝါးကုသမှုခံယူနိုင်ရန် **(Speed Boat)** ကိုလည်း စီစဉ်ထားရှိပါမည်။

၅။ ပတ်ဝန်းကျင် စိမ်းလန်းသာယာရေးအတွက် ပန်းခြံ၊ ပန်းဥယျာဉ်တို့ကိုလည်း တည်ဆောက်သွားမည်ဖြစ်ပါသည်။

၆။ ဝန်ထမ်း ထမင်းစားသောက်ဆောင်ကိုလည်း တည်ဆောက်ပြီး၊ ထမင်းစားခုံ၊ ကုလားထိုင်၊ ဆပ်ပြာ၊ သန့်ရှင်းရေးသုံး ပစ္စည်းများ ဖြည့်ဆည်းပေးပါမည်။

၇။ ရေချိုးခန်း၊ အိမ်သာများကို အမျိုးသား၊ အမျိုးသမီးခွဲခြားလျက် အလုံအလောက် တည်ဆောက်ထားရှိမည်ဖြစ်ပါသည်။ ရေဆိုးများ စနစ်တကျရှိစေရေး စီမံဆောင်ရွက်မည်ဖြစ်ပါသည်။

No. 123-125, 134-135, Shwe Yin Aye 1st Street, Industrial Zone (5) Extension, Hlaing Thar Yar Township, Yangon, Myanmar.
Tel : (951) 688202, 688203, Fax : 688201
E-mail : info@unitedwoodindustries.com.mm



# United Hotels & Resorts Co., Ltd .

၈။ ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရန် သန့်စင်ခန်းများ၊ အမှိုက်ပုံးများထားရှိခြင်း၊ ဟိုတယ်ဝန်းကျင် သန့်ရှင်းမှု ရှိစေရန် လုပ်ငန်းဆောင်ရွက်ပေးခြင်း၊ ရေနုတ်မြောင်းများနှင့် ရေစီးရေလာ ကောင်းမွန်ရန် စီစဉ်ထားရှိပါမည်။

၉။ ကမ်းခြေဟိုတယ်တွင် လုံခြုံရေးဂိတ်များထားရှိပြီး၊ ဟိုတယ်လုံခြုံရေး၊ ဝန်ထမ်းလုံခြုံရေး၊ မီးဘေး အန္တရာယ်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သောကြိုတင်ကာကွယ်မှု၊ အစီအမံများကို ပြုလုပ်ဆောင်ရွက် သွားမည်ဖြစ်ပါသည်။

၁၀။ ဝန်ထမ်းများကို အလုပ်သမားဥပဒေ၊ လူမှုဖူလုံရေးအက်ဥပဒေများနှင့် အခြားသောနိုင်ငံတော်မှ ထုတ်ပြန် ထားသည့် တည်ဆဲဥပဒေ၊ ညွှန်ကြားချက်များနှင့်အညီ လုပ်ကိုင်ဆောင်ရွက်စေပြီး၊ တည်ဆဲဥပဒေများ ကိုလည်း လိုက်နာစေရန် စီစဉ်ဆောင်ရွက်ထားမည်ဖြစ်ပါသည်။

(ဇော်မျိုးကျော်)
အုပ်ချုပ်မှုဒါရိုက်တာ
စုပေါင်းဟိုတယ်နှင့်အပန်းဖြေစခန်းကုမ္ပဏီလီမိတက်

No. 123-125, 134-135, Shwe Yin Aye 1st Street, Industrial Zone (5) Extension, Hlaing Thar Yar Township, Yangon, Myanmar.
Tel : (951) 688202, 688203, Fax : 688201
E-mail : info@unitedwoodindustries.com.mm






## မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးစီမံချက်တင်ပြခြင်း

ကျွန်တော်များ **United Hotels & Resorts Co., Ltd.** အနေဖြင့် အဆင့်မီ ကမ်းခြေဟိုတယ် အပန်းဖြေစခန်းတည်ဆောက်၍ ဟိုတယ်လုပ်ငန်းကိုင်ရန်အတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ လုပ်ငန်းခွင့်ပြုမိန့် လျှောက်ထားခြင်းဖြစ်ပါသည်။ အထက်ဖော်ပြပါ လုပ်ငန်း ဆောင်ရွက်မည့်နေရာတွင် မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးနှင့် ပတ်သက်၍ ကျွန်တော်များ ကုမ္ပဏီအနေဖြင့် အောက်ပါအတိုင်းစီစဉ် ဆောင်ရွက်ထားရှိမည်ဖြစ်ပါသည်။

၁။ **သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးစီမံထားရှိမှု။**

ကျွန်းများပေါ်၌ သဘာဝအလျောက်ပေါက်ရောက်လျက်ရှိသော သစ်ပင်၊ ဝါးပင်၊ ကိုင်းပင်များနှင့် ဒီရေတောများ မပျက်စီးစေရေး၊ ခုတ်လှဲခြင်းမပြုစေရေးနှင့် တရားမဝင်လာရောက် သစ်ခုတ် ဝါးခုတ်သူများအား မလာရောက်စေရန် တားမြစ်ခြင်း၊ သဘာဝတောရိုင်း တိရစ္ဆာန်များအား ကာကွယ်စောင့်ရှောက်စေခြင်းဖြင့် အထူးကြပ်မတ်ဆောင်ရွက်ပါမည်။

၂။ **ပင်မရေသိုလှောင်ကန် ထားရှိခြင်း။**

မီးဘေးအန္တရာယ်ပေါ်ပေါက်လာပါက မီးလွယ်ကူစွာငြိမ်းသတ်နိုင်ရေးအတွက် အလျား၂၅ပေ၊ အနံ ၁၂ပေ၊ အမြင့် ၈ ပေ ရှိသော ကွန်ကရစ်အုတ်ရေကန်တစ်ခုထားရှိမည်ဖြစ်သည်။ အဆိုပါ ရေကန်တွင် မီးသတ်ရေပိုက်ခေါင်းများ တပ်ဆင်ပေးထားမည်ဖြစ်ပြီး ရေတွန်းမော်တာစက်များကိုလည်း တပ်ဆင်ပေးထားမည်ဖြစ်ပါသည်။

၃။ **အမြင့်တင်ရေသိုလှောင်ကန် ထားရှိခြင်း။**

မီးဘေးအန္တရာယ်ပေါ်ပေါက်လာပါက မီးလွယ်ကူစွာ ငြိမ်းသတ်နိုင်ရေးအတွက် အထောက်အကူဖြစ်စေရန် အမြင့်တင်ရေစင်တစ်ခုကိုလည်း အလျား ၁၀ ပေ၊ အနံ ၆ ပေ၊ အမြင့် ၆ ပေရှိသော ရေလှောင်ကန်ကို အမြင့်ပေ (၂၅)တွင် ထားရှိမည်ဖြစ်ပါသည်။ အဆိုပါ ရေကန်မှရေများကိုလည်း ရေတွန်းမော်တာစက်များမှတစ်ဆင့် ဟိုတယ်အတွင်းအပြင်သို့ ရေများပို့လွှတ်ပေးရန် စီစဉ်ထားမည် ဖြစ်ပါသည်။

၄။ **မီးသတ်စက်များထားရှိခြင်း။**

မီးဘေးအန္တရာယ် ပေါ်ပေါက်လာပါက မီးလွယ်ကူစွာ ငြိမ်းသတ်နိုင်ရေးအတွက် ကမ်းခြေဟိုတယ် အဆောက်အဦတိုင်း၏ ထောင့်လေးထောင့်နေရာ၊ သိုလှောင်ရုံ၊ မီးစက်နှင့် အခြားအရေးကြီးသော နေရာများတွင် အသင့်သယ်ယူနိုင်သော မီးသတ်စက်များ ထားရှိမည်ဖြစ်ပါသည်။ အဆိုပါ မီးသတ်စက်များကို ဟိုတယ်၏ အတွင်းအပြင်သို့ သွယ်ယူထားသော ရေပိုက်ခေါင်းများမှတစ်ဆင့် မီးငြိမ်းသတ်ပေးနိုင်ရန် စီစဉ်ထားမည် ဖြစ်ပါသည်။

No. 123-125, 134-135, Shwe Yin Aye 1st Street, Industrial Zone (5) Extension, Hlaing Thar Yar Township, Yangon, Myanmar.
Tel : (951) 688202, 688203, Fax : 688201
E-mail : info@unitedwoodindustries.com.mm



United Hotels & Resorts Co., Ltd .

၅။ **မီးသတ်ဆေးဗူးများ ထားရှိခြင်း။**

မီးဘေးအန္တရာယ် ပေါ်ပေါက်လာပါက လွယ်ကူစွာ ငြိမ်းသတ်နိုင်ရေးအတွက် ကမ်းခြေဟိုတယ်၏ ပင်မ အဆောက်အဦနှင့် ဘန်ဂလိုပုံစံ ဟိုတယ်ခန်းများတွင် ပေ ၂၀ ခြားလျက် တစ်လုံးစီဖြင့် မီးသတ်ဆေးဗူးများထားရှိမည် ဖြစ်ပါသည်။

၆။ **စိမ်းလန်းစိုပြေရေး ဆောင်ရွက်မှု စီမံထားရှိခြင်း။**

ဟိုတယ်ပတ်ဝန်းကျင်တွင် မီးလောင်ခြင်းကို ဟန့်တားစေရန် သစ်ပင်များ စိုက်ပျိုးထားရှိခြင်း။

ဟိုတယ်၏ ပတ်ဝန်းကျင်တွင် မီးဘေးအန္တရာယ်တားဆီးပေးရာရောက်စေမည့် အရိပ်ရသစ်ပင်ကြီးများနှင့် မီးတား မြက်ခင်းများ စိုက်ပျိုးထားရှိမည်ဖြစ်ပါသည်။

၇။ **မီးဘေးအန္တရာယ်ကာကွယ်ဆောင်ရွက်မှု စီမံထားရှိခြင်း။**

ထို့အပြင် ကမ်းခြေဟိုတယ်၏ ဝင်ပေါက်ထွက်ပေါက်နေရာတိုင်းတွင် ရေကန်ငယ်များ၊ ရေခွက်များ၊ သဲအိတ်များ၊ မီးချိတ် မီးကပ်များ စသည့် မီးဘေးကာကွယ်နိုင်မည့်ပစ္စည်းများ ထားရှိမည်ဖြစ်ပါသည်။ ဟိုတယ်တွင် မီးဘေးအန္တရာယ်အတွက် စည်းကမ်းချက်များ ချမှတ်ထားပြီး၊ ဝန်ထမ်းများအား တိကျစွာလိုက်နာဆောင်ရွက်ရန် စီမံထားရှိပါမည်။ ဝန်ထမ်းများအား မီးဘေးအရေးပေါ် ကာကွယ်နိုင်ရန် မီးသတ်နည်းပညာများ လေ့ကျင့်သင်တန်းပေးမည်ဖြစ်ပါသည်။ ဟိုတယ်အတွင်း လုပ်ငန်းခွင်တွင် ဆေးလိပ်သောက်ခြင်းကို တင်းကျပ်စွာ တားမြစ်ခြင်းနှင့် လျှပ်စစ်နှင့်ပတ်သက်၍ အန္တရာယ်များ မဖြစ်ပေါ်အောင် စီစဉ်ဆောင်ရွက်မည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

(ဇော်မျိုးကျော်)
အုပ်ချုပ်မှုဒါရိုက်တာ
စုပေါင်းဟိုတယ်နှင့်အပန်းဖြေစခန်းကုမ္ပဏီလီမိတက်

No. 123-125, 134-135, Shwe Yin Aye 1st Street, Industrial Zone (5) Extension, Hlaing Thar Yar Township, Yangon, Myanmar.
Tel : (951) 688202, 688203, Fax : 688201
E-mail : info@unitedwoodindustries.com.mm

PROPOSAL FORM (1) RE-ITEM 12 (e) ( IN MILLION )

INTERNAL RATE OF RETURN Exhibit No. X

| YEAR | INVESTMENT | NET PROFIT | DEPRECIATION | TOTAL CASH IN FLOW | CASH FLOW | DCF | | DCF | | DCF | |
|---|---|---|---|---|---|---|---|---|---|---|---|
| | | | | | | DF 10% | DCF | DF 15% | DCF | DF 20% | DCF |
| 0 | 500.000 | 0.000 | 0.000 | -500.000 | -500.000 | 0.909 | -454.500 | 0.869 | -434.500 | 0.833 | -416.500 |
| 1 | 0.000 | -20.209 | 41.500 | 21.291 | 21.291 | 0.826 | 17.586 | 0.756 | 16.096 | 0.694 | 14.776 |
| 2 | | 33.149 | 41.500 | 74.649 | 74.649 | 0.751 | 56.061 | 0.657 | 49.044 | 0.579 | 43.222 |
| 3 | | 16.593 | 41.500 | 58.093 | 58.093 | 0.683 | 39.678 | 0.572 | 33.229 | 0.482 | 28.001 |
| 4 | | 69.747 | 41.500 | 111.247 | 111.247 | 0.621 | 69.084 | 0.497 | 55.290 | 0.402 | 44.721 |
| 5 | | 50.642 | 41.500 | 92.142 | 92.142 | 0.564 | 51.968 | 0.432 | 39.805 | 0.335 | 30.868 |
| 6 | | 81.673 | 41.500 | 123.173 | 123.173 | 0.513 | 63.188 | 0.376 | 46.313 | 0.279 | 34.365 |
| 7 | | 85.252 | 41.500 | 126.752 | 126.752 | 0.466 | 59.066 | 0.327 | 41.448 | 0.232 | 29.406 |
| 8 | | 87.941 | 41.500 | 129.441 | 129.441 | 0.424 | 54.883 | 0.284 | 36.761 | 0.194 | 25.112 |
| 9 | | 90.037 | 41.500 | 131.537 | 131.537 | 0.385 | 50.642 | 0.247 | 32.490 | 0.161 | 21.177 |
| 10 | | 92.134 | 41.500 | 133.634 | 133.634 | 0.350 | 46.772 | 0.215 | 28.731 | 0.134 | 17.907 |
| 11 | | 131.280 | 0.000 | 131.280 | 131.280 | 0.319 | 41.878 | 0.187 | 24.549 | 0.112 | 14.703 |
| 12 | | 131.280 | 0.000 | 131.280 | 131.280 | 0.290 | 38.071 | 0.162 | 21.267 | 0.093 | 12.209 |
| 13 | | 131.280 | 0.000 | 131.280 | 131.280 | 0.263 | 34.527 | 0.141 | 18.510 | 0.078 | 10.240 |
| 14 | | 131.280 | 0.000 | 131.280 | 131.280 | 0.239 | 31.376 | 0.123 | 16.147 | 0.065 | 8.533 |
| 15 | | 131.280 | 0.000 | 131.280 | 131.280 | 0.218 | 28.619 | 0.107 | 14.047 | 0.054 | 7.089 |
| 16 | | 131.280 | 0.000 | 131.280 | 131.280 | 0.198 | 25.993 | 0.093 | 12.209 | 0.045 | 5.908 |
| 17 | | 131.280 | 0.000 | 131.280 | 131.280 | 0.180 | 23.630 | 0.081 | 10.634 | 0.037 | 4.857 |
| 18 | | 131.280 | 0.000 | 131.280 | 131.280 | 0.163 | 21.399 | 0.070 | 9.190 | 0.031 | 4.070 |
| 19 | | 131.280 | 0.000 | 131.280 | 131.280 | 0.148 | 19.429 | 0.061 | 8.008 | 0.026 | 3.413 |
| 20 | | 131.280 | 0.000 | 131.280 | 131.280 | 0.135 | 17.723 | 0.053 | 6.958 | 0.022 | 2.888 |
| TOTAL | 0.000 | 1899.759 | 415.000 | 1814.759 | 1814.759 | | 337.074 | | 86.228 | | -53.034 |

INTERNAL RATE OF RETURN = 15 + 5 ( 86.228 / 139.262 )

= 15 + 3.096 = 18.096 %



# United Hotels & Resorts Co., Ltd.

## UNITED HOTELS & RESORTS CO., LTD.
၏
ဒါရိုက်တာအဖွဲ့အစည်းအဝေးမှတ်တမ်း

ကျင်းပသည့်နေ့ရက် – ၁၆.၁.၂၀၁၅
ကျင်းပသည့်အချိန် – နံနက် (၉ : ၀၀) နာရီ
ကျင်းပသည့်နေရာ – ကုမ္ပဏီရုံးခန်း
တက်ရောက်သူများ – (၁) ဦးဇော်မျိုးကျော် – အုပ်ချုပ်မှုဒါရိုက်တာ
(၂) ဦးကျော်ကျော် – ဒါရိုက်တာ
(၃) ဦးစိုးမြင့်ဦး – ဒါရိုက်တာ
(၄) ဦးဝဏ္ဏဘို – ဒါရိုက်တာ
(၅) ဦးတင်အောင်ငွေ – ဒါရိုက်တာ

ဆွေးနွေးချက်

အစည်းအဝေးတွင် သဘာပတိအဖြစ် အုပ်ချုပ်မှုဒါရိုက်တာက ဆောင်ရွက်ပါသည်။ အစည်းအဝေးတွင် အုပ်ချုပ်မှုဒါရိုက်တာမှ ကုမ္ပဏီအနေဖြင့် ဟိုတယ်ဆောက်လုပ်၍ ဟိုတယ်လုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီး မြှုပ်နှံမှုဥပဒေအရမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ခွင့်ပြုမိန့်တင်ပြလျှောက်ထားခြင်းအတွက် လိုအပ်သော အစီအစဉ်များကို ရှင်းလင်းတင်ပြပါသည်။ ကုမ္ပဏီ၏ ကျန်ဒါရိုက်တာများမှလည်း ပါဝင်ဆွေးနွေးကြပြီး အောက်ပါအတိုင်း သဘောတူဆုံးဖြတ်ကြပါသည်။

ဆုံးဖြတ်ချက်

၁။ ကုမ္ပဏီအနေဖြင့် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းမြို့နယ်ရှိ ခေင်ညိုကြီးကျွန်းတွင် ဟိုတယ် လုပ်ငန်းကို ကိုယ်ပိုင်ရင်းနှီးငွေ ကျပ်သန်း (၅၀၀) ဖြင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ခွင့်ပြုမိန့်တင်ပြလျှောက်ထားရန်နှင့် ကုမ္ပဏီ၏ အုပ်ချုပ်မှုဒါရိုက်တာ ဦးဇော်မျိုးကျော် အားကိုယ်စားလှယ် လျှောက်ထားသူအဖြစ် တာဝန်ပေးအပ်ခြင်းကို ဒါရိုက်တာအဖွဲ့မှ သဘောတူညီမှု ရှိကြောင်း ဆုံးဖြတ်ကြပါသည်။

၂။ အဆိုပြုခွင့်ပြုမိန့်လျှောက်ထားရာတွင် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ (၂၀)အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များလျှောက်ထားရာတွင် ခရီးသည်များသယ်ယူပို့ဆောင်ရေးအတွက်လိုအပ်သော (Mini Bus) နှင့် (Speed Boat) တင်သွင်းနိုင်ခြင်း အလို့ငှာ လုပ်ငန်းမစတင်မီကာလ ဖြစ်နေသောကြောင့် ဝန်ဆောင်မှုရရှိမည့် နိုင်ငံခြားဝင်ငွေမရှိသေးသဖြင့် ညီနောင်ကုမ္ပဏီဖြစ်သော စုပေါင်းသစ်ထွက်ပစ္စည်း စက်မှုလုပ်ငန်း ကုမ္ပဏီလီမိတက်၏ နိုင်ငံခြားဝင်ငွေမှ လွှဲပြောင်း ရယူသုံးစွဲရန် သဘောတူကြပါသည်။

၃။ ဒါရိုက်တာအဖွဲ့မှ အထက်ပါ ဆုံးဖြတ်ချက်များချမှတ်ပြီး အစည်းအဝေးကို နေ့လည် (၁၁:၃၀) နာရီတွင် ရုပ်သိမ်းလိုက်ပါသည်။

အတည်ပြုသူများ

(ဦးဇော်မျိုးကျော်)
အုပ်ချုပ်မှုဒါရိုက်တာ

(ဦးကျော်ကျော်)
ဒါရိုက်တာ

(ဦးဝဏ္ဏဘို)
ဒါရိုက်တာ

(ဦးစိုးမြင့်ဦး)
ဒါရိုက်တာ

(ဦးတင်အောင်ငွေ)
မှတ်တမ်းတင်သူ

အောက်တွင် အမည် ၊နေရပ် နှင့် အကြောင်းအရာ စုံလင်စွာပါသော ဇယားတွင် လတ်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ထိုယ်စီကိုယ်ငှ သည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခု ဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့ ၏ အမည် အသီးသီးနှင့်ယှဉ်တွဲ၍ ဖော်ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့် ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်ကြသူများ၏<br>အမည်၊ နေရပ်လိပ်စာနှင့် အကြောင်းအရာ | နိုင်ငံသား၊<br>အမျိုးသား<br>မှတ်ပုံတင်အမှတ် | ဝယ်ယူသော<br>အစုရှယ်ယာ<br>ဦးရေ | ထိုးမြဲ<br>လက်မှတ် |
|---|---|---|---|---|
| ၁။ | စုပေါင်းသစ်ထွက်ပစ္စည်းစက်မှုလုပ်ငန်းကုမ္ပဏီလီမိတက်<br>ကို ကိုယ်စားပြုသူ<br>ဦးဇော်မျိုးကျော်<br>အမှတ် ၂၅၄၊ ရန်ကုန်အင်းစိန်လမ်း၊ ၁၆ ရပ်ကွက်၊<br>လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ ( အုပ်ချုပ်မှုဒါရိုက်တာ ) | မြန်မာနိုင်ငံတွင်ဖွဲ့စည်း<br>တည်ထောင်သည်။<br>မြန်မာ<br>၇/ပခန(နိုင်)<br>၀၀၂၃၅၅ | ၄၇၅၀ | |
| ၂။ | ဦးကျော်ကျော်<br>အမှတ် ၄၂၂ဘီ၊ အမှတ်(၄)လမ်းမကြီး၊<br>ဇီးကုန်းရပ်ကွက်၊ ရွှေပြည်သာမြို့နယ်၊<br>ရန်ကုန်မြို့။ ( ကုန်သည် ) | မြန်မာ<br>၈/ခမန(နိုင်)<br>၀၁၀၀၁၉ | ၅၀ | |
| ၃။ | ဦးစိုးမြင့်ဦး<br>အမှတ် ၁၇(၆-ဘီ)၊ အင်းဝလမ်း၊ ကျောက်မြောင်းကြီးရပ်ကွက်၊<br>တာမွေမြို့နယ်၊ ရန်ကုန်မြို့။ ( ကုန်သည် ) | မြန်မာ<br>၁၄/ပသန(နိုင်)<br>၁၃၃၇၇၆ | ၅၀ | |
| ၄။ | ဦးဝဏ္ဏထို<br>အခန်းအမှတ် ၀၀၆၊ တိုက်အမှတ် ၂၊ လှိုင်သီရိအိမ်ရာ၊<br>(၉)ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။ ( ကုန်သည် ) | မြန်မာ<br>၁၂/ဒဂန(နိုင်)<br>၀၂၅၄၀၃ | ၅၀ | |
| ၅။ | ဦးဇာနည်အောင်<br>အမှတ် ၁၆၀၊ မြေတိုင်းလမ်း၊ ၄၅ ရပ်ကွက်၊<br>ဒဂုံမြို့သစ်မြောက်ပိုင်းမြို့နယ်၊ ရန်ကုန်မြို့။ ( ကုန်သည် ) | မြန်မာ<br>၉/ပမန(နိုင်)<br>၀၉၇၇၁၂ | ၅၀ | |
| ၆။ | ဦးတင်အောင်ဌွေး<br>အမှတ် ၇၇၇၊ ဒီပါအေးမြလမ်း၊ ၄၆ ရပ်ကွက်၊<br>ဒဂုံမြို့သစ်မြောက်ပိုင်းမြို့နယ်၊ ရန်ကုန်မြို့။ ( ကုန်သည် ) | မြန်မာ<br>၁၂/ဒဂမ(နိုင်)<br>၀၀၂၇၃၀ | ၅၀ | |

ရန်ကုန်။ ။ နေ့စွဲ။ ။ ၂၀၀၉ ခုနှစ်၊ ဇွန်လ ( ၁၈ ) ရက်နေ့။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင်လက်မှတ်ရေးထိုးကြပါသည်။

ဦးသန်းစိုးလင်း ( B.Com (Q), C.P.A )
လက်မှတ်ရပြည်သူ့စာရင်းကိုင်၊စာရင်းစစ်
အမှတ် ၁၅၃၊ ပထမထပ်(ယာ)၊ ၄၇လမ်း၊
ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။ ( ဖုန်း ၂၉၂၃၀၃ )

U Than Soe Linn (B.Com(Q) C.P.A)
Certified Public Accountant & Auditor
No.153, 1st-Floor, 47th Street, Botataung T/S Yangon.
Ph: 292?83/095?







No.615/1, Pyay Road,
Kamayut Township,
Yangon, Myanmar.
Tel: (+951) 538 075-76,
538 078-80
Fax: (+951) 538 069-71

*No. 0641130000782* *Dated , 10 October , 2014*

To,

UNITED HOTELS & RESORTS CO.LTD

NO.123-125,134-135, SHWE YIN AYE 1ST, ZONE(5) EXT;
HLAING THAR YAR, YANGON

**DEAR SIR,**

We hereby certify that the balance standing at the credit of the account of UNITED HOTELS & RESORTS CO.LTD ( 0641130000782) with the KANBAWZA BANK Ltd. Kanbawza Bank Limited (HlaingTharYar) at the close of business on the(10 October, 2014) was K 700,300,000.00(Seven Hundred Million and Three Hundred Thousand Kyats Only ).

**Yours Faithfully**

Assistant Manager
Kanbawza Bank Ltd.
Hlaing Tharyar Branch.



United Hotels & Resorts Co., Ltd .

**UNITED HOTELS & RESORTS CO., LTD**

၏

ဒါရိုက်တာအဖွဲ့ အစည်းအဝေးမှတ်တမ်း

ကျင်းပသည့်နေ့ – ၂၅ –၈ –၂၀၁၄
ကျင်းပသည့်အချိန် – နံနက် (၁၀း၀၀) နာရီ
ကျင်းပသည့်နေရာ – ကုမ္ပဏီရုံးခန်း
တက်ရောက်သူများ –(၁) ဦးဇော်မျိုးကျော် – အုပ်ချုပ်မှုဒါရိုက်တာ
(၂) ဦးကျော်ကျော် – ဒါရိုက်တာ
(၃) ဦးစိုးမြင့်ဦး – ဒါရိုက်တာ
(၄) ဦးဝဏ္ဏဘို – ဒါရိုက်တာ
(၅) ဦးတင်အောင်ဌေး – ဒါရိုက်တာ

ဆွေးနွေးချက်

အစည်းအဝေးတွင် သဘာပတိအဖြစ် အုပ်ချုပ်မှုဒါရိုက်တာက ဆောင်ရွက်ပါသည်။ အစည်းအဝေးတွင် အုပ်ချုပ်မှုဒါရိုက်တာမှ ကုမ္ပဏီအနေဖြင့် ဟိုတယ်တည်ဆောက်၍ ဟိုတယ်လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ခွင့်ပြုမိန့်တင်ပြလျှောက်ထားခြင်းအတွက် လိုအပ်သော အစီအစဉ်များကို ရှင်းလင်းတင်ပြပါသည်။ ကုမ္ပဏီ၏ ကျန်ဒါရိုက်တာများမှလည်း ပါဝင်ဆွေးနွေးကြပြီး အောက်ပါအတိုင်း သဘောတူဆုံးဖြတ်ကြပါသည်။

**ဆုံးဖြတ်ချက်**

၁။ ကုမ္ပဏီအနေဖြင့် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းမြို့နယ်ရှိ ခေါင်ညိုကြီးကျွန်းတွင် ဟိုတယ်လုပ်ငန်းကို ကိုယ်ပိုင်ရင်းနှီးငွေ ကျပ်သန်း (၅၀၀)ဖြင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ခွင့်ပြုမိန့်တင်ပြလျှောက်ထားရန်နှင့် ကုမ္ပဏီ၏အုပ်ချုပ်မှုဒါရိုက်တာ ဦးဇော်မျိုးကျော်အား ကိုယ်စားလှယ်လျှောက်ထားသူအဖြစ် တာဝန်ပေးအပ်ခြင်းကို ဒါရိုက်တာအဖွဲ့မှ သဘောတူညီမှု ရှိကြောင်းဆုံးဖြတ်ကြပါသည်။

၂။ ဒါရိုက်တာအဖွဲ့မှ အထက်ပါ ဆုံးဖြတ်ချက်များချမှတ်ပြီး အစည်းအဝေးကို နေ့လယ် (၁၁း၃၀) နာရီတွင် ရုတ်သိမ်းလိုက်ပါသည်။

အတည်ပြုသူများ

(ဦးဇော်မျိုးကျော်)
အုပ်ချုပ်မှုဒါရိုက်တာ

(ဦးကျော်ကျော်)
ဒါရိုက်တာ

(ဦးဝဏ္ဏဘို)
ဒါရိုက်တာ

(ဦးစိုးမြင့်ဦး)
ဒါရိုက်တာ

မှတ်တမ်းတင်သူ
(ဦးတင်အောင်ဌေး)

No. 123-125, 134-135, Shwe Yin Aye 1st Street, Industrial Zone (5) Extension, Hlaing Thar Yar Township, Yangon, Myanmar.
Tel : (951) 688202, 688203, Fax : 688201
E-mail : info@unitedwoodindustries.com.mm

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

# ပြည်ထောင်စုရှေ့နေချုပ်ရုံး

# နေပြည်တော်

စာအမှတ်၊ ၂(၅) ၃ - ၂၃ /နပတ( [illegible] )

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ ဧပြီလ ၂၈ ရက်

အကြောင်းအရာ။ **တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် United Hotels and Resorts Co., Ltd တို့အကြား ချုပ်ဆိုမည့် မြေငှားခြင်းသဘောတူစာချုပ်(မူကြမ်း)နှင့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ်(မူကြမ်း)များအပေါ် သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက်။

(၁) တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၄-၄-၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ၁၇၈၃ / ၇၂၈ / ၇-၂၈ / အဖရ (တနင်္သာရီ)

(၂) တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ၃၀-၁-၂၀၁၄ ရက်စွဲပါ စာအမှတ်၊ ၅၇၅ / ၇၂၈ / ၇-၂၈ / အဖရ (တနင်္သာရီ)

(၃) ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ ၁၉-၂-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ၂(၅) ၃-၂၃/ နပတ(၁၆၅)

၁။ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့သည် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့၏ အနောက်မြောက်ဘက်တွင် တည်ရှိသော ငခင်ညိုကြီးကျွန်းနှင့် တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့၏ မြောက်ဘက်တွင် တည်ရှိသော ဝအလယ်ကျွန်းတို့တွင် အပန်းဖြေဟိုတယ်တည်ဆောက်ရေးလုပ်ငန်းများ ဆောင်ရွက်ရန်အတွက် United Hotels and Resorts Co., Ltd နှင့်ချုပ်ဆိုမည့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူ

စာချုပ်(မူကြမ်း) ၂ ရပ်နှင့် မြေငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း) ၂ ရပ်အပေါ် သဘောထားမှတ်ချက်ပေးပါရန် ရည်ညွှန်းချက်(၁)ပါစာဖြင့် တင်ပြလာသောကိစ္စဖြစ်ပါသည်။

၂။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့မှ ရည်ညွှန်းချက်(၂)ပါစာဖြင့် သဘောထားမှတ်ချက်တောင်းခံလာခြင်းအပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံးမှ ရည်ညွှန်းချက်(၃)ပါစာဖြင့် ကျွန်းတစ်ကျွန်းစီအတွက် မြေငှားရမ်းခြင်းစာချုပ်နှင့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ စာချုပ်သီးခြားစီချုပ်ဆိုသင့်ကြောင်း အကြံပြုပြန်ကြားခဲ့သဖြင့် စာချုပ်(မူကြမ်း)များ ထပ်မံပေးပို့လာခြင်းဖြစ်ပါသည်။

၃။ ရည်ညွှန်းချက်(၁)ပါစာဖြင့် ပေးပို့လာသော မြေငှားရမ်းခြင်းစာချုပ်(မူကြမ်း) ၂ ရပ်နှင့် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းစာချုပ်(မူကြမ်း) ၂ ရပ်တို့မှာ ငှားရမ်းမည့်ကုမ္ပဏီတူညီခြင်း၊ စာချုပ်ပုံစံတစ်မျိုးတည်းရေးသားပြုစုထားခြင်းတို့ကြောင့် တစ်ပေါင်းတည်းစိစစ်၍ အကြံပြုအပ်ပါသည်။

၄။ ပေးပို့လာသော တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ်(မူကြမ်း) ၂ ရပ်အပေါ် ဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည် -

(က) စာချုပ်(မူကြမ်း) စာချုပ်ဝင်များစာပိုဒ်ကို ပုံစံကျနမှုရှိစေရန် ပြင်ဆင်ရေးသားပေးလိုက်ပါသည်၊

(ခ) စာချုပ်(မူကြမ်း) စာချုပ်ဝင်များစာပိုဒ်တွင် မြေဇရိယာအကျယ်အဝန်းသတ်မှတ်ချက်အား တိကျစွာ ထည့်သွင်းဖော်ပြရန် လိုအပ်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း) အပိုဒ် ၃ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ၏ တာဝန်များ အပိုဒ်ခွဲ ၃-၁ တွင် ဤစာချုပ်၏ နောက်ဆက်တွဲပါအပန်းဖြေဟိုတယ် လုပ်ငန်း အဆောက်အဦများ ဆောက်လုပ်ခြင်းနှင့် ဆက်စပ်လုပ်ငန်းများကို စံချိန်စံညွှန်းအပြည့်

အဝဖြင့် ပြီးမြောက်အောင် ဆောက်လုပ်သွားရန်နှင့် လုပ်ငန်းကို အကောင်အထည်ဖော်လုပ်ကိုင်သွားရန်ဟု ဖော်ပြထားပါသည်။ နောက်ဆက်တွဲ "က" မြေပုံမှအပ ပူးတွဲမပါရှိသဖြင့် စိစစ်ပေးနိုင်ခြင်းမရှိပါ။ နောက်ဆက်တွဲများသည် စာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်သဖြင့် နောက်ဆက်တွဲပါ ဖော်ပြချက်များသည် စာချုပ်ပါစည်းကမ်းချက်များနှင့် ညီညွတ်မှုရှိစေရန်၊ စာချုပ်လက်မှတ်ရေးထိုးသည့်အချိန်တွင် ပြည့်စုံစွာ ပူးတွဲဖော်ပြရန် ဌာနမှ တာဝန်ယူစိစစ်ရန် လိုအပ်ပါသည်။ ဆက်စပ်လုပ်ငန်းများ ဆိုသည်မှာ မည်သည့်လုပ်ငန်းများဖြစ်ကြောင်း၊ စံချိန်စံညွှန်းဆိုသည်မှာ မည်သည့်စံနှုန်းဖြစ်ကြောင်း နောင်အငြင်းပွားမှုမဖြစ်စေရေးအတွက် ရှင်းလင်းစွာ ဖော်ပြသင့်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ် ၄ မြေပေါ်မြေအောက် သယံဇာတပစ္စည်းများ စည်းကမ်းချက်နှင့်စပ်လျဉ်း၍ အလားတူစာချုပ်များတွင် အသုံးပြုလေ့ရှိသော စာပိုဒ်ကို Slip ကပ်ပေးလိုက်ပါသည်၊

(င) စာချုပ်(မူကြမ်း)အပိုဒ် ၇ ငှားရမ်းသည့်ကာလ(လုပ်ကိုင်ခွင့်ပြုသည့်ကာလ) တွင် မြေငှားရမ်းခြင်းကာလ စတင်ရေတွက်မည့်နေ့ရက်အား တိကျစွာ ထည့်သွင်းဖော်ပြရန်လိုအပ်ပါသည်၊

(စ) စာချုပ်(မူကြမ်း) အပိုဒ် ၈ သက်တမ်းတိုးခြင်း၊ အပိုဒ်ခွဲ ၈-၁ တွင် "-------- သတ်မှတ်ကာလပြီးဆုံးပြီးနောက် နောက်ထပ် ဆက်လက်ငှားရမ်းအသုံးပြုလိုပါကတစ်ကြိမ်လျှင်(၁၀)နှစ်စီဖြင့် နောက်ထပ်အနည်းဆုံးနှစ်ကြိမ်ဆက်လက်ငှားရမ်းအသုံးပြုရန်" ဟု ဖော်ပြထားရာ ယင်းစကားရပ်အစား "-------- သတ်မှတ်ကာလပြီးဆုံးပြီးနောက် သက်တမ်းတိုးလိုပါက သက်တမ်းတစ်ကြိမ်လျှင် ၁၀ နှစ်ဖြင့် သက်တမ်းနှစ်ကြိမ် အငှားချထားသူ၏ သဘောတူညီချက်

ဖြင့်တိုးနိုင်သည်” ဟု ရေးသားသင့်ပါသည်။ ဌာန၏ လိုအပ်ချက်နှင့် ကိုက်ညီမှုရှိ မရှိ ပြန်လည်စိစစ်သင့်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း)အပိုဒ် ၉ ငှားရမ်းမြေကိုပြန်လည်လွှဲပြောင်းပေးခြင်း အပိုဒ်ခွဲ ၉-၁ တွင် ငှားရမ်းသည့်သက်တမ်းနှင့် တိုးမြှင့်သည့်သက်တမ်းများ ပြည့်သည့်အခါ ငှားရမ်းမြေကို မူလလုပ်ကိုင်ခွင့်ပြုသူသို့ မြေအနေအထားပျက်စီးယိုယွင်းမှုမရှိစေဘဲ ကောင်းမွန်စွာ ပြန်လည်အပ်နှံရန် တာဝန်ရှိသည်ဟု ဖော်ပြထားပါသည်။ စာချုပ်(မူကြမ်း)မှာ တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းစာချုပ်ဖြစ်ပါသဖြင့် မြေပေါ်တွင် တည်ဆောက်ထားသော အဆောက်အအုံများကို လုပ်ကိုင်ခွင့်ပြုသူသို့ စာချုပ်သက်တမ်းကုန်ဆုံးချိန် သို့မဟုတ် စာချုပ်ရပ်စဲချိန်တွင် လွှဲပြောင်းပေးအပ်ရမည်ဖြစ်သဖြင့် ထိုသို့ အဆောက်အအုံလွှဲပြောင်းပေးအပ်ခြင်းနှင့် ရွှေ့ပြောင်းနိုင်သောပစ္စည်း၊ မရွှေ့မပြောင်းနိုင်သောပစ္စည်းများ လွှဲပြောင်းခြင်းနှင့် စပ်လျဉ်းသော စည်းကမ်းချက်အား ထည့်သွင်းဖော်ပြရန် လိုအပ်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း) အပိုဒ် ၁၀ တည်ဆောက်ရေးကာလ၊ အပိုဒ်ခွဲ ၁၀-၂ တွင် လုပ်ကိုင်ခွင့်ရသူက မြေလွှဲပြောင်းလက်ခံသည့်နေ့မှစ၍(၂၄)လအတွင်း ဟိုတယ်လုပ်ငန်းဆိုင်ရာ အဆောက်အဦများ၊ ဆက်စပ်လုပ်ငန်းများကို အပြီးတည်ဆောက်ရန် ဖော်ပြထားပါသည်။ ဟိုတယ်လုပ်ငန်းဆိုင်ရာ အဆောက်အဦပုံစံများ၊ စံချိန်စံညွှန်းစည်းကမ်းချက်များ ဆက်စပ်လုပ်ငန်းများတို့အား နောင်အငြင်းပွားမှုမဖြစ်စေရေးအတွက် တရားဝင်သတ်မှတ်ထားသောပုံစံများကို နောက်ဆက်တွဲဖြင့် ရှင်းလင်းစွာ ပူးတွဲဖော်ပြသင့်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း)အပိုဒ် ၁၀ တည်ဆောက်ရေးကာလ၊ အပိုဒ်ခွဲ ၁၀-၂ ၏ စာကြောင်း ၅ ကြောင်းမြောက်ပါ ဝါကျမှာ ငှားရမ်းမည့်ကာလနှင့် သက်ဆိုင်

သဖြင့် အပိုဒ် ၇ ငှားရမ်းကာလ ခေါင်းစဉ်အောက်သို့ ပြောင်းရွှေ့ဖော်ပြသင့်ပါသည်၊

(ည) စာချုပ်(မူကြမ်း)အပိုဒ် ၁၀ တည်ဆောက်ရေးကာလ၊ အပိုဒ်ခွဲ ၁၀-၂ ၏ နောက်ဆုံးဝါကျမှာ မြေငှားရမ်းခနှင့် သက်ဆိုင်၍ အပိုဒ် ၁၁ မြေငှားရမ်းခ သတ်မှတ်ခြင်း ခေါင်းစဉ်အောက်သို့ ပြောင်းရွှေ့ဖော်ပြသင့်ပါသည်၊

(ဋ) စာချုပ်(မူကြမ်း) အပိုဒ် ၁၁ မြေငှားခသတ်မှတ်ခြင်းစည်းကမ်းချက်တွင် မြေငှားရမ်းခကို ငှားရမ်းကာလအတွင်း မည်သည့်နှစ်တွင် တစ်ကြိမ်ပြင်ဆင် သတ်မှတ်မည်ဖြစ်ကြောင်း ထည့်သွင်းဖော်ပြသင့်ပါသည်၊

(ဌ) စာချုပ်(မူကြမ်း) အပိုဒ် ၁၂ မြေငှားရမ်းခပေးချေခြင်း၊ အပိုဒ်ခွဲ ၁၂-၂ တွင် နှစ်စဉ်မြေငှားရမ်းခကို ဘဏ္ဍာရေးနှစ်ပထမလေးလပတ်၏ ပထမဆုံးလ အတွင်း ပေးသွင်းရန် ဖော်ပြထားပါသည်။ ပထမဆုံးနှစ်အတွက် အဆင်ပြေမှုရှိ မရှိ ပြန်လည်စိစစ်၍ အဆင်ပြေမှုမရှိပါက ပထမဆုံးနှစ်အတွက် စည်းကမ်းချက်ကို သီးခြားဖော်ပြသင့်ပါသည်။ ထိုသို့ပေးရန် နောက်ကျပါက နောက်ကျကြေးရယူရန်သင့် မသင့် ပြန်လည်စိစစ်သင့်ပါသည်၊

(ဍ) စာချုပ်(မူကြမ်း) အပိုဒ် ၁၃ ဒေသဖွံ့ဖြိုးရေးရန်ပုံငွေ၊ အပိုဒ်ခွဲ ၁၃-၁ တွင် စီးပွားဖြစ်စတင်လုပ်ကိုင်ကြောင်း တင်ပြသည့်နေ့မှစ၍ နှစ်စဉ်ရရှိသည့် ဝင်ငွေထဲမှ အသားတင်အမြတ်၏ ၁၀% ကို အငှားချထားသူသို့ ပေးသွင်းရန် ဖော်ပြထားပါသည်။ စီးပွားဖြစ်စတင်လုပ်ကိုင်နိုင်ခြင်းမရှိပါက ရန်ပုံငွေရရှိမှု မရှိနိုင်ကြောင်း သတိပြုသင့်ပါသည်၊

(ဎ) စာချုပ်(မူကြမ်း) အပိုဒ် ၁၄ မြေအသုံးချမှုပရီမီယံပေးသွင်းခြင်း၊ အပိုဒ်ခွဲ ၁၄-၁ တွင် မြေအသုံးချမှုပရီမီယံကို ဤစာချုပ်ချုပ်ဆိုသည့်နေ့မှစ၍ တစ်လအတွင်း

တစ်ကြိမ်တည်းပေးသွင်းရန်ဖြစ်ကြောင်းဖော်ပြထားပါသည်။ထို့သို့ ပေးသွင်းခြင်းမပြုပါက မည်သို့ဆောင်ရွက်မည် ဆိုသည့်စည်းကမ်းချက်ကို ထည့်သွင်းဖော်ပြသင့်ပါသည်၊

(ဏ) စာချုပ်(မူကြမ်း)အပိုဒ် ၁၆ စာချုပ်ရပ်စဲခြင်း၊ အပိုဒ်ခွဲ ၁၆-၁(ခ) တွင် မလွန်ဆန်နိုင်သောဖြစ်ရပ်နှင့် စပ်လျဉ်းသည့်ကာလအား သတ်မှတ်ဖော်ပြသင့်ပါသည်။ ကာလမှာ မကြာမြင့်သင့်ဟု ယူဆပါသည်၊

(တ) စာချုပ်(မူကြမ်း) အပိုဒ် ၁၉ စာချုပ်အပေါ် ပြန်လည်ညှိနှိုင်းခြင်း၊ ပြင်ဆင်ခြင်း၊ အပိုဒ်ခွဲ ၁၉-၁ တွင် "ဤစာချုပ်ချုပ်ဆိုသော အချိန်တွင်ရှိသည့် အခြေအနေနှင့် မတူညီသော အခြေအနေမျိုးပေါ်ပေါက်လာပါက စာချုပ်ဝင်နှစ်ဦးနှစ်ဖက် ပြန်လည်ညှိနှိုင်းဆွေးနွေးခွင့်ရှိကြောင်း" ဖော်ပြထားပါသည်။ ထိုသို့ ဖော်ပြမည့်အစား "ဤစာချုပ်ချုပ်ဆိုပြီးနောက် ကြိုတင်မျှော်မှန်းထားခြင်းမရှိသော အခြေအနေ သို့မဟုတ် အကြောင်းအရာတစ်ရပ်ရပ်ပေါ်ပေါက်ခြင်းကြောင့် ဤစာချုပ်ပါစည်းကမ်းချက်တစ်စုံတစ်ရာအား ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်း သို့မဟုတ် ဖြည့်စွက်ခြင်းပြုလုပ်ရန် လိုအပ်ပါက စာချုပ်ဝင်များညှိနှိုင်းပြီး သဘောတူညီချက်အရ စာဖြင့်ရေးသား၍ ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်း သို့မဟုတ် ဖြည့်စွက်ခြင်း ပြုလုပ်နိုင်သည်" ဟု ဖော်ပြပါက ပိုမိုသင့်လျော်မည်ဟု သဘောရရှိပါသည်၊

(ထ) စာချုပ်(မူကြမ်း) အပိုဒ် ၂၀ စာချုပ်အစိတ်အပိုင်းများ၊ အပိုဒ်ခွဲ ၂၀-၁ တွင် ပူးတွဲထားသော စာရွက်စာတမ်း၊ မြေပုံ၊ စာရင်းဇယားတို့သည် ဤစာချုပ်၏ အစိတ်အပိုင်းများအဖြစ် သတ်မှတ်ကြောင်း ဖော်ပြထားသော်လည်း နောက်ဆက်တွဲ "က" မှအပ နောက်ဆက်တွဲများ ပူးတွဲမပါရှိသဖြင့် စိစစ်ပေးနိုင်ခြင်း

မရှိပါ။ စာချုပ်လက်မှတ်ရေးထိုးသည့်အချိန်တွင် ပြည့်စုံစွာ ပူးတွဲဖော်ပြရန် လိုအပ်ပါသည်၊

(ဒ) စာချုပ်(မူကြမ်း) တွင် မြေသို့ပြန်လည်ဝင်ရောက်ပိုင်ခွင့် စည်းကမ်းချက်မပါရှိ၍ Slip ကပ်ပေးလိုက်ပါသည်။ ဌာန၏ လိုအပ်ချက်နှင့်ကိုက်ညီမှုရှိ မရှိ ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဓ) စာချုပ်(မူကြမ်း)တွင် ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်းနှင့် စပ်လျဉ်းသည့် စည်းကမ်းချက်မပါရှိ၍ ရေးသားပေးလိုက်ပါသည်၊

(န) စာချုပ်(မူကြမ်း)ပါ ကွက်လပ်များအား စာချုပ်ချုပ်ဆိုသောအချိန်တွင် ပြည့်စုံစွာ ဖြည့်စွက်ပြီးဖြစ်ရန် လိုအပ်ပါသည်၊

(ပ) စာချုပ်(မူကြမ်း)တွင် အဓိကအရေးကြီးသည့် စာချုပ်သက်တမ်း၊ စာချုပ်သက်တမ်းတိုးမြှင့်ခြင်း စသည့်စည်းကမ်းချက်များမပါရှိ၍ ထည့်သွင်းဖော်ပြရန် လိုအပ်ပါသည်။ ငှားရမ်းကာလသည် စာချုပ်သက်တမ်းအတွင်းကျရောက်ရပါမည်၊

(ဖ) လိုအပ်သောနေရာတွင် မင်နီဖြင့် ပြင်ဆင်ပေးလိုက်ပါသည်။

၅။ ပေးပို့လာသော မြေငှားရမ်းခြင်းသဘောတူစာချုပ်(မူကြမ်း) ၂ ရပ်အပေါ် ဥပဒေရှုထောင့်လေ့လာစိစစ်၍ အောက်ပါအတိုင်း သုံးသပ် အကြံပြုအပ်ပါသည် -

(က) စာချုပ်(မူကြမ်း) စာချုပ်ဝင်များစာပိုဒ်ကို ပုံစံကျနမှုရှိစေရန် ပြင်ဆင်ရေးသားပေးလိုက်ပါသည်၊

(ခ) စာချုပ်(မူကြမ်း) စာချုပ်ဝင်များစာပိုဒ်တွင် မြေဧရိယာအကျယ်အဝန်းသတ်မှတ်ချက်နှင့် စပ်လျဉ်း၍ အထက်အပိုဒ် ၄ အပိုဒ်ခွဲ (ခ) ပါအတိုင်း

အကြံပြုအပ်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း) အပိုဒ် ၃ အငှားချထားခြင်းခံရသူ၏ တာဝန်များ အပိုဒ်ခွဲ ၃-၁ တွင် မြေငှားရမ်းခကို သတ်မှတ်ချိန်အတွင်း မပျက်မကွက်ပေးဆောင်ရန် ဖော်ပြထားပါသည်။ ပျက်ကွက်မှုအတွက် မည်ကဲ့သို့ ဆောင်ရွက်မည်ဖြစ်ကြောင်း စည်းကမ်းချက်အား ထည့်သွင်းဖော်ပြရန် လိုအပ်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ် ၄ မြေပေါ်မြေအောက် သယံဇာတပစ္စည်းများ စည်းကမ်းချက်နှင့်စပ်လျဉ်း၍ အလားတူစာချုပ်များတွင် အသုံးပြုလေ့ရှိသော စာပိုဒ်ကို Slip ကပ်ပေးလိုက်ပါသည်၊

(င) စာချုပ်(မူကြမ်း)အပိုဒ် ၇ ငှားရမ်းသည့်ကာလတွင် မြေငှားရမ်းခြင်း စတင်ရေတွက်မည့်နေ့ရက်နှင့် စပ်လျဉ်း၍ အထက်အပိုဒ် ၄ အပိုဒ်ခွဲ (င)ပါအတိုင်း အကြံပြုအပ်ပါသည်၊

(စ) စာချုပ်(မူကြမ်း) အပိုဒ် ၈ သက်တမ်းတိုးခြင်း၊ အပိုဒ်ခွဲ ၈-၁ ပါဖော်ပြချက်နှင့်စပ်လျဉ်း၍ အထက်အပိုဒ် ၄ အပိုဒ်ခွဲ (စ)ပါအတိုင်း အကြံပြုအပ်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း) အပိုဒ် ၉ ငှားရမ်းမြေကို ပြန်လည်လွှဲပြောင်းပေးခြင်း အပိုဒ်ခွဲ ၉-၁ နှင့်စပ်လျဉ်း၍ အထက်အပိုဒ် ၄ အပိုဒ်ခွဲ (ဆ) ပါ အကြံပြုချက်နှင့်အညီ စည်းကမ်းချက် ထည့်သွင်းဖော်ပြရန် လိုအပ်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း) အပိုဒ် ၁၀ တည်ဆောက်ရေးကာလ၊ အပိုဒ်ခွဲ ၁၀-၂ ပါ ဟိုတယ်လုပ်ငန်းဆိုင်ရာ အဆောက်အအုံများ ဆက်စပ်လုပ်ငန်းများနှင့် စပ်လျဉ်း၍ အထက်အပိုဒ် ၄ အပိုဒ်ခွဲ (ဇ)ပါအတိုင်း အကြံပြုအပ်ပါသည်၊

(ဈ) စာချုပ်(မူကြမ်း)အပိုဒ် ၁၀ တည်ဆောက်ရေးကာလ၊ အပိုဒ်ခွဲ ၁၀-၂ ၏ စာကြောင်း ၅ ကြောင်းမြောက်ပါ ဝါကျနှင့်စပ်လျဉ်း၍ အထက်အပိုဒ် ၄၊ အပိုဒ်ခွဲ (ဈ) ပါအတိုင်း အကြံပြုအပ်ပါ သည်၊

(ည) စာချုပ်(မူကြမ်း) အပိုဒ် ၁၀ တည်ဆောက်ရေးကာလ၊ အပိုဒ်ခွဲ ၁၀-၂ ၏ နောက်ဆုံးဝါကျနှင့်စပ်လျဉ်း၍ အထက်အပိုဒ် ၄၊ အပိုဒ်ခွဲ (ည)ပါအတိုင်း အကြံပြုအပ်ပါသည်၊

(ဋ) စာချုပ်(မူကြမ်း) အပိုဒ် ၁၁ မြေငှားခသတ်မှတ်ခြင်း စည်းကမ်းချက်နှင့် စပ်လျဉ်း၍ အထက်အပိုဒ် ၄ အပိုဒ်ခွဲ (ဋ)ပါအတိုင်း အကြံပြုအပ်ပါသည်၊

(ဌ) စာချုပ်(မူကြမ်း) အပိုဒ် ၁၂ မြေငှားရမ်းခပေးချေခြင်း၊ အပိုဒ်ခွဲ ၁၂-၂ တွင် ပထမဆုံးနှစ်အတွက် မြေငှားရမ်းခပေးချေခြင်းနှင့်စပ်လျဉ်း၍ အထက်အပိုဒ် ၄ အပိုဒ်ခွဲ (ဌ)ပါအတိုင်း အကြံပြုအပ်ပါသည်၊

(ဍ) စာချုပ်(မူကြမ်း) အပိုဒ် ၁၃ ဒေသဖွံ့ဖြိုးရေးရန်ပုံငွေ၊ အပိုဒ်ခွဲ ၁၃-၁ ပါ စည်းကမ်းချက်နှင့်စပ်လျဉ်း၍ အထက်အပိုဒ် ၄ အပိုဒ်ခွဲ (ဍ)ပါအတိုင်း အကြံပြုအပ်ပါသည်၊

(ဎ) စာချုပ်(မူကြမ်း) အပိုဒ် ၁၄ မြေအသုံးချမှုပရီမီယံပေးသွင်းခြင်း၊ အပိုဒ်ခွဲ၁၄-၁ နှင့် စပ်လျဉ်း၍ အထက်အပိုဒ် ၄ အပိုဒ်ခွဲ (ဎ)ပါအတိုင်း အကြံပြုအပ်ပါသည်၊

(ဏ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ ၁၆-၁(ခ) မလွန်ဆန်နိုင်သောဖြစ်ရပ်နှင့်စပ်လျဉ်း၍ အထက်အပိုဒ် ၄ အပိုဒ်ခွဲ (ဏ)ပါအတိုင်း အကြံပြုအပ်ပါသည်၊

(တ) စာချုပ်(မူကြမ်း) အပိုဒ် ၁၉ စာချုပ်အပေါ် ပြန်လည်သုံးသပ်ခြင်း၊ ပြင်ဆင်ခြင်း၊ အပိုဒ်ခွဲ ၁၉-၁ ပါ စည်းကမ်းချက်နှင့်စပ်လျဉ်း၍ အထက်အပိုဒ် ၄ အပိုဒ်ခွဲ (တ)ပါအတိုင်း အကြံပြုအပ်ပါသည်၊

(ထ) စာချုပ်(မူကြမ်း) အပိုဒ် ၂၀ စာချုပ်အစိတ်အပိုင်းများ၊ အပိုဒ်ခွဲ ၂၀-၁ ပါ စည်းကမ်းချက်နှင့်စပ်လျဉ်း၍ အထက်အပိုဒ် ၄ အပိုဒ်ခွဲ (ထ)ပါအတိုင်း အကြံပြုအပ်ပါသည်၊

(ဒ) စာချုပ်(မူကြမ်း) တွင် မြေသို့ပြန်လည်ဝင်ရောက်ပိုင်ခွင့်၊ စည်းကမ်းချက်မပါရှိ၍ အထက်အပိုဒ် ၄ အပိုဒ်ခွဲ (ဒ) ပါအတိုင်း Slip ကပ်ပေးလိုက်ပါသည်၊

(ဓ) စာချုပ်(မူကြမ်း)တွင် ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်းနှင့် စပ်လျဉ်းသည့် စည်းကမ်းချက်မပါရှိ၍ ရေးသားပေးလိုက်ပါသည်၊

(န) စာချုပ်(မူကြမ်း)ပါ ကွက်လပ်များအား စာချုပ်ချုပ်ဆိုသောအချိန်တွင် ပြည့်စုံစွာ ဖြည့်စွက်ပြီးဖြစ်ရန် လိုအပ်ပါသည်၊

(ပ) စာချုပ်(မူကြမ်း)တွင် အဓိကအရေးကြီးသည့် စာချုပ်သက်တမ်း၊ စာချုပ်သက်တမ်းတိုးမြှင့်ခြင်း စသည့်စည်းကမ်းချက်များမပါရှိ၍ ထည့်သွင်းဖော်ပြရန် လိုအပ်ပါသည်။ လုပ်ငန်းသက်တမ်းသည် စာချုပ်သက်တမ်းအတွင်းကျရောက်ရပါမည်၊

(ဖ) လိုအပ်သောနေရာတွင် မင်နီဖြင့် ပြင်ဆင်ပေးလိုက်ပါသည်။

၆။ ဤစာချုပ်(မူကြမ်း)များကို ပြည်ထောင်စုရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်းအရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ၊

ကျွမ်း[illegible]ချက်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့် [illegible] သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါသည်။

၇။ [illegible]ited Hotels and Resorts Co., Ltd သည် ဥပဒေနှင့်အညီ တရားဝင် ဖွဲ့စည်းထား[illegible]ဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိ မရှိ၊ [illegible]အားပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူ [illegible] စသည်တို့အတွက် သက်ဆိုင်ရာစာရွက်စာတမ်းများ တောင်းယူစိစစ်သင့်ပါသည်။

[illegible] ဤစာချုပ်(မူကြမ်း)များကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက်ဤရုံးသို့ မိတ္တူ(၃)စောင်စီပေးပို့ရန် မေတ္တာရပ်ခံအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)

( မေသီလင်း၊ ဒုတိယညွှန်ကြားရေးမှူးချုပ်)

တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့

# တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့

# နှင့်

# United Hotels and Resorts Co.,Ltd

# တို့အကြား ချုပ်ဆိုသော

# မြေငှားရမ်းခြင်းသဘောတူစာချုပ်

(မူကြမ်း)

ခင်ညိုကြီးကျွန်း

# တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့

## နှင့်

## United Hotels and Resorts Co.,Ltd

## တို့အကြား ချုပ်ဆိုသော

## မြေငှားရမ်းခြင်းသဘောတူစာချုပ် (မူကြမ်း)

ဤမြေငှားရမ်းခြင်းဆိုင်ရာသဘောတူစာချုပ်ကို ၂၀၁၅ ခုနှစ်၊............လ၊ ...........ရက်နေ့တွင် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၊ မြို့တွင် ဦးတင်သိန်း (မှတ်ပုံတင်အမှတ် ၊ ၇/တငန(နိုင်) ၀၀၆၀၆၇)၊ အတွင်းရေးမှူး၊ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ ကိုယ်စားပြု၊ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၊ ထားဝယ်မြို့၊ (နောင်တွင် "အငှားချထားသူ" ဟုခေါ်တွင်မည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင် ၎င်းအားဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်း ခံရသူများ ပါဝင်သည်။)

က တစ်ဖက် နှင့်

ဦးဇော်မျိုးကျော် (မှတ်ပုံတင်အမှတ် ၇/ပခန(နိုင်) ၀၀၂၃၅၅) မန်နေဂျင်း ဒါရိုက်တာ United Hotels and Resorts Co., Ltd. ကိုယ်စားပြုသော ရန်ကုန်တိုင်း ဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ အမှတ်-၁၂၃-၁၂၅၊ ၁၃၄-၁၃၅ ၊ ရွှေရင်အေး ၁-လမ်း ၊ စက်မှုဇုန် (၅) တိုးချဲ့ရပ်တွင် ဖွင့်လှစ်ထားရှိသော United Hotels and Resorts Co., Ltd. (နောင်တွင် "အငှားချထားခြင်းခံရသူ" ဟုခေါ်တွင်မည်ဖြစ်ပြီး ယင်းစကား ရပ်တွင် ၎င်း၏တရားဝင်ကိုယ်စားလှယ်များနှင့် ၎င်းအားဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်)။

က တစ်ဖက်တို့သည်

တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့၏ အနောက်မြောက်ဘက် ရေမိုင် (၄၃) မိုင်ခန့်အကွာ၊ မြောက်လတ္တီကျု ၁၀°၂၇' N နှင့် အရှေ့လောင်ဂျီကျု ၉၇°၅၂'E တွင်တည်ရှိသော ခေါင်ညိုကြီးကျွန်း (Boulder Rock Island)၊ ကို မြေဧရိယာ အကျယ်အဝန်းသတ်မှတ်၍ အပန်းဖြေဟိုတယ် လုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ရန် မြေငှားရမ်းခြင်းဆိုင်ရာ ဤသဘောတူစာချုပ်ကို နှစ်ဦး သဘောတူ စာချုပ်ပြုလုပ် ချုပ်ဆိုကြပါသည်။

အငှားချထားသူ နှင့် အငှားချထားခြင်းခံရသူတို့သည် အောက်ဖော်ပြပါ အချက်အလက်များကို နှစ်ဦးနှစ်ဖက် သဘောတူဆောင်ရွက်သွားကြပါမည်-

၁.၀ ရည်ရွယ်ချက်နှင့်လုပ်ငန်းပမာဏ

၁.၁။ သဘာဝအခြေခံ ခရီးသွားလုပ်ငန်းဖွံ့ဖြိုး တိုးတက်စေရန် ဒေသဆိုင်ရာအလုပ်အကိုင် အခွင့်အလမ်းများ တိုးပွားလာစေရန်နှင့် နယ်မြေဒေသဖွံ့ဖြိုးတိုးတက်စေရန် ရည်ရွယ်၍ အပန်းဖြေဟိုတယ် တည်ဆောက်ရေး လုပ်ငန်းများကို လုပ်ကိုင်သွားရန်ဖြစ်သည်။

၁.၂ အငှားချထားခြင်းခံရသူအနေဖြင့် ငှားရမ်းရရှိသောမြေများပေါ်တွင် မြန်မာငွေကျပ် သိန်းပေါင်း (၅၀၀၀၀၀၀၀၀) (ကျပ်သိန်းငါးထောင်တိတိ) ကို ကျခံရင်းနှီးမြှုပ်နှံဆောင်ရွက်သွားမည်ဖြစ်ပြီး ကဏ္ဍအလိုက် ငွေသားရင်းနှီးမှု ကျပ် (၈၅၀၀၀၀၀၀) သိန်း (ကျပ်သိန်း ရှစ်ရာငါးဆယ်တိတိ)၊ အဆောက်အဦတွင် ရင်းနှီးမြှုပ်နှံမှု ကျပ် (၃၀၀၀၀၀၀၀၀) (ကျပ်သိန်းသုံးထောင်တိတိ)နှင့် စက်ကိရိယာပစ္စည်းတွင် ရင်းနှီးမြှုပ်နှံမှု ကျပ် (၁၁၅၀၀၀၀၀၀) (ကျပ်သိန်း တစ်ထောင့်တစ်ရာငါးဆယ် တိတိ) တို့ကို သုံးစွဲဆောင်ရွက်သွားပါမည်။

၁.၃ အငှားချထားခြင်းခံရသူသည် ခေါင်ညိုကြီးကျွန်းရှိ ငှားရမ်းမြေပေါ်တွင် အပန်းဖြေဟိုတယ်လုပ်ငန်းအတွက် ဘန်ဂလိုတစ်ထပ် (၃၀)လုံး၊ ပင်မဟိုတယ်အဆောက်အဦ (၁)လုံးနှင့် ဆက်စပ်လုပ်ငန်းများကို ဆောက်လုပ်အသုံးပြုပါမည်။

၂.၀ အာမခံခြင်း နှင့် ကိုယ်စားပြုခြင်း

၂.၁ အငှားချထားသူသည် တနင်္သာရီတိုင်းဒေသကြီး အစိုးရအဖွဲ့ဖြစ်၍ အုပ်ချုပ်ရေး၊ စီမံခန့်ခွဲရေး အခွင့်အာဏာရှိသူဖြစ်ပြီး ဤသဘောတူစာချုပ်ပါ အငှားချထားသည့် မြေ (သို့မဟုတ်) ကျွန်းကို အငှားချထား ပေးပိုင်ခွင့်ရှိသူ ဖြစ်ပါသည်။

၂.၂ အငှားချထားခြင်းခံရသူသည် ဤစာချုပ်ပါလုပ်ငန်းများကို အကောင်အထည်ဖော် ဆောင်ရွက် နိုင်သည့် အဖွဲ့အစည်းတစ်ရပ်ဖြစ်ပြီး မြန်မာနိုင်ငံ၏တည်ဆဲ ဥပဒေများနှင့်အညီ ဖွဲ့စည်းတည်ထောင်ထားသော ကုမ္ပဏီတစ်ခု ဖြစ်ပါကြောင်းနှင့် လုပ်ငန်းလုပ်ဆောင်ရန် ငွေကြေးအင်အားအပြည့်အဝရှိပါကြောင်း အာမခံပါ သည်။

၂.၃ စာချုပ်ဝင် နှစ်ဦးနှစ်ဖက်တို့သည် မိမိတို့၏ အခွင့်အာဏာနှင့် လုပ်ကိုင်နိုင်စွမ်းရှိကြသူများ အသီးသီးဖြစ်ကြောင်း အာမခံပါသည်။

၃.၀ ငှားရမ်းသည့်မြေ

၃.၁ ငှားရမ်းသည့်မြေသည် တနင်္သာရီတိုင်းဒေသကြီး ကော့သောင်းခရိုင် ကော့သောင်းမြို့၏ အနောက်မြောက်ဘက် ရေမိုင် ၄၃ မိုင်ခန့်အကွာ မြောက်လတ္တီကျူ ၁၀° ၂၇' (10° 27'N) နှင့် အရှေ့လောင်ဂျီကျူ ၉၇° ၅၂' (97° 52' E) တွင် တည်ရှိသော ခေါင်ညိုကြီးကျွန်းတွင် တည်ရှိသည်။ ခေါင်ညိုကြီးကျွန်းသည် စုစုပေါင်း ဧက (၅၅၀) ခန့် ကျယ်ဝန်းပြီး အငှားချထားခြင်းခံရသူက အသုံးပြုလိုသည့် မြေအကျယ်အဝန်းမှာ ဧက (၂၀)

ဖြစ်ပါသည်။ ကွန်းအကျယ်အဝန်း အနေအထားနှင့် ငှားရမ်းအသုံးပြုသည့် မြေဧရိယာကို ဤစာချုပ်တွင် မြေပုံဖြင့် ပူးတွဲထားပါသည်။ (နောက်ဆက်တွဲ "က")။ မြေပုံကို ဤစာချုပ်၏အစိတ်အပိုင်းအဖြစ် မှတ်ယူစေရမည်။

၄. ၀ အငှားချထားခြင်းခံရသူ၏တာဝန်များ

၄. ၁ အငှားချထားခြင်းခံရသူသည် သတ်မှတ်ထားသည့် မြေငှားရမ်းခကို သတ်မှတ်ချိန်အတွင်း မပျက်မကွက် ပေးဆောင်ရပါမည်။

၄. ၂ ငှားရမ်းမြေနှင့်စပ်လျဉ်း၍ မြေငှားရမ်းကာလအတွင်း ပေးဆောင်ရမည့် အခွန်အခများ ပေးဆောင်ရပါမည်။

၄. ၃ ငှားရမ်းမြေကို အငှားချထားသူက (သို့မဟုတ်) အငှားချထားသူ၏ တာဝန်ပေးအပ်ခြင်း ခံရသူက အခါအားလျော်စွာ စစ်ဆေးလိုကြောင်း အကြောင်းကြားလာသည့်အခါ ငှားရမ်းမြေအပေါ် အငှားချ ထားခြင်း ခံရသူက ဝင်ရောက်စစ်ဆေးခွင့်ပြုပါမည်။ စစ်ဆေးတွေ့ရှိချက်အပေါ် ပြုပြင်ဆောင်ရွက်ရန် လိုအပ် ကြောင်းစာဖြင့် အကြောင်းကြားလာပါက လိုက်နာဆောင်ရွက်ပေးရန်ဖြစ်ပါသည်။

၄. ၄ အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်၏ ရည်ရွယ်ချက်ပါ အချက်အလက်များနှင့် မသက်ဆိုင်သောကိစ္စအတွက် ငှားရမ်းမြေကို သုံးစွဲခြင်းမပြုရပါ။

၄.၅ မြေငှားရမ်းစဉ် ကာလတစ်လျှောက်လုံး ငှားရမ်းမြေအား တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချ ခြင်း၊ ထပ်ဆင့်ငှားရမ်းလုပ်ကိုင်စေခြင်း၊ အခြားနည်းအသုံးပြု ခြင်းမျိုး မပြုလုပ်ရပါ။

၄. ၆ မြေငှားရမ်းမှုသက်တမ်း ကုန်ဆုံးချိန်တွင် မြေကိုကောင်းမွန်သော အခြေအနေဖြင့် ပြန်လည် အပ်နှံရပါမည်။

၄.၇ မြန်မာနိုင်ငံ၏ တည်ဆဲဥပဒေများနှင့်ဆန့်ကျင်သော ကိစ္စရပ်များကို အငှားချထားသည့် မြေပေါ်တွင် မပြုလုပ်ရ။

၅. ၀ အငှားချထားသူ၏တာဝန်များ

၅. ၁ အငှားချထားသူသည် မြေအငှားချထားသည့် ကာလအတွင်း ငှားရမ်းသည့် မြေပေါ်တွင် အခြားသောပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းများ (သို့မဟုတ်) အငှားချထားသူက တာဝန်ပေးအပ်ခြင်း ခံရသူ ဖြစ်ပါသည်ဟု အဆိုပြုလာသူ တစ်ဦးဦး၏ အနှောင့်အယှက်မရှိစေဘဲ အငှားချထားခြင်းခံရသူက အေးချမ်းစွာ နှင့် အဆင်ပြေစွာ အသုံးပြုနိုင်စေရေးအတွက် စောင့်ရှောက်မှုပေးရန် ဖြစ်ပါသည်။

၅. ၂ အငှားချထားခြင်းခံရသူမှ ပေးဆောင်ရမည့် မြေခွန်မှအပ အခွန်အမျိုးအစားများကို မှန်မှန် ပေးသွင်းစေရန် ကြီးကြပ်ဆောင်ရွက်ပေးရမည့်အပြင် အငှားချထားခြင်းခံရသူအား မြေငှားရမ်းခများ ပေးသွင်းမှုကို အဆင်ပြေစေရေးအတွက် စီစဉ်ဆောင်ရွက်ပေးရမည်။

၆.၀ ငှားရမ်းမြေကို ပြန်လည်လွှဲပြောင်းပေးခြင်း

၆.၁ အငှားချထားခြင်းခံရသူသည် ငှားရမ်းသည့်သက်တမ်းနှင့် တိုးမြှင့်သည့် သက်တမ်းများ ပြည့်သည့်အခါ (သို့မဟုတ်) စာချုပ်ရပ်စဲသည့်အခါ ယင်းနေ့မှ ရက်ပေါင်း (၃၀) ရက်အတွင်း ငှားရမ်းမြေကို မူလ အငှားချထားသူထံသို့ မြေအနေအထား ပျက်စီးယိုယွင်းမှု မရှိစေဘဲကောင်းမွန်စွာ ပြန်လည်အပ်နှံရန် တာဝန် ရှိပါသည်။

၇.၀ တည်ဆောက်ရေးကာလ

၇.၁ ဤစာချုပ်ကို လက်မှတ်ရေးထိုးသည့်နေ့မှစ၍ ငှားရမ်းမြေကို အငှားချထားသူက အငှားချ ထားခြင်းခံရသူသို့ လက်ရောက်ပေးအပ်လျက် တည်ဆောက်ရေးလုပ်ငန်းများကို စတင်လုပ်ကိုင်ခွင့်ပြုပါသည်။

၇.၂ ဤစာချုပ်ချုပ်ဆိုလျက် မြေလွှဲပြောင်းလက်ခံသည့်နေ့မှစ၍ (၂၄) လအတွင်း ဟိုတယ်လုပ်ငန်း ဆိုင်ရာအဆောက်အဦများ၊ ဆက်စပ်လုပ်ငန်းများကို အငှားချထားခြင်း ခံရသူက အပြီးတည်ဆောက်ရန် ဖြစ်ပါသည်။ (၂၄)လပြည့်သည့်အထိ တည်ဆောက် ပြီးစီးခြင်းမရှိပါက ယင်းကာလပြည့်သည့်နေ့မှစ၍ ကျသင့်သော မြေငှားရမ်းခများကို အငှားချထားခြင်းခံရသူက ပေးသွင်းရပါမည်။ မြေငှားရမ်းသည့်ကာလကို ခွင့်ပြုပေး ထားသည့် တည်ဆောက်ရေးကာလ (၂၄)လပြည့်သည့်နေ့မှစ၍ နှစ်(၅၀)ဖြစ်သည်ဟု ရေတွက် သတ်မှတ်သည်။ တည်ဆောက်ရေးကာလ (၂၄)လအတွက် မြေငှား ရမ်းခကို အငှားချခြင်းခံရသူမှ ပေးသွင်းရန်မလိုဘဲ အငှားချထားသူက ဤစာချုပ်ဖြင့် ကင်းလွတ်ခွင့်ပြုပါသည်။

၈.၀ မြေငှားရမ်းကာလသတ်မှတ်ခြင်းနှင့်ဖွံ့ဖြိုးမှုဆောင်ရွက်ခြင်း

၈.၁ အငှားချထားခြင်းခံရသူသည် ငခင်ညိုကြီးကျွန်းရှိ အငှားချထားကြောင်း အတည်ပြုပေး ထားသည့် မြေအကျယ်အဝန်း ဧက(၂၀)ပေါ်တွင် အပန်းဖြေစခန်း၊ ဟိုတယ်လုပ်ငန်းများကို ဤသဘောတူစာချုပ်အပိုဒ် (၁.၀)ပါ အချက်အလက်များအတိုင်း လုပ်ကိုင်ဆောင်ရွက်သွားရန် သဘောတူပါသည်။

၈.၂ အငှားချထားသူသည် အငှားချထားခြင်းခံရသူသို့ ငခင်ညိုကြီးကျွန်းရှိ အငှားချထားကြောင်း အတည်ပြုပေးထားသည့် မြေအကျယ်အဝန်း ဧက(၂၀)ကို ဤသဘောတူစာချုပ်လက်မှတ်ရေးထိုးသည့် နေ့မှစ၍ နှစ်ပေါင်း (၅၀)ငှားရမ်းအသုံးပြုခွင့်ပြုပါသည်။ သက်တမ်းပြည့်သည့်အခါ အငှားချထားခြင်းခံရသူသည် ဆက်လက် ငှားရမ်းလုပ်ကိုင်လိုပါက နောက်ထပ်တစ်ကြိမ်လျှင် (၁၀)နှစ်စီဖြင့် (၂)ကြိမ်ဆက်လက် ငှားရမ်းသုံးစွဲခွင့်ပြုရန် တင်ပြ ဆောင်ရွက်ခွင့်ရှိသည်။

၈.၃ အငှားချထားခြင်းခံရသူသည် မိမိကုမ္ပဏီ၏ဆောင်ရွက်မည့်အစီအစဉ်များဖြစ်သော တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာသဘောတူစာချုပ် (B.O.T) အပိုဒ် (၁.၃) တွင် ဖော်ပြထားသည့် အစီအစဉ်များ အတိုင်း ငှားရမ်းရရှိသည့် မြေပေါ်တွင် အပန်းဖြေစခန်း၊ အဆောက်ဦးများကို ဆောက်လုပ်၍ ဟိုတယ်လုပ်ငန်း ၊ ဟိုတယ်လုပ်ငန်းနှင့်ဆက်စပ်သည့် ဝန်ဆောင်မှုလုပ်ငန်းများကို ဤသဘောတူစာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှ စ၍ အကောင်အထည်ဖော်ဆောင်ရွက်သွားရမည်။

၉.၀ မြေအသုံးချမှုပရီမီယံကြေးပေးသွင်းခြင်း နှင့် မြေငှားရမ်းခ ပေးချေခြင်း

၉.၁ အငှားချထားခြင်းခံရသူသည် မြေအသုံးချမှု ပရီမီယံအဖြစ် ဤကိစ္စနှင့်စပ်လျဉ်း၍ ချုပ်ဆိုထားသည့် B.O.T စာချုပ်ပါအတိုင်း ခေင်ညိုကြီးကျွန်းရှိ ဧက (၂၀) အတွက် မြန်မာငွေကျပ် ၆၀၀၀၀၀၀ (ကျပ် သိန်းခြောက်ဆယ်တိတိ) ကို ဤစာချုပ် ချုပ်ဆိုသည့်နေ့မှစ၍ တစ်လအတွင်း တစ်ကြိမ်တည်းပေးသွင်းရန်ဖြစ်ပါသည်။ ယင်းမြေအသုံးချမှုပရီမီယံငွေသည် ငှားရမ်းမှုသက်တမ်း တစ်လျှောက်လုံးအတွက် အပြီးအပြတ်ဖြစ်ကြောင်း၊ ထပ်မံပေးသွင်းရန် မလိုကြောင်း နှစ်ဖက်သဘောတူ အတည်ပြုကြပါသည်။

၉.၂ အငှားချထားခြင်းခံရသူသည် မြေအသုံးပြုခြင်းအတွက် နှစ်စဉ်မြေငှားရမ်းငွေ မြေအကျယ်အဝန်း ဧက (၂၀)အတွက် မြေတစ်ဧကလျှင် တစ်နှစ်လျှင် မြန်မာငွေကျပ် (၂၀၀၀၀) နှုန်းဖြင့် ပေးချေရမည်။

၉.၃ အငှားချထားခြင်းခံရသူသည် တစ်နှစ်လျှင် (၂)ကြိမ်အရစ်ကျပေးချေရမည်။ ပထမဆုံးအကြိမ်ကို ဤသဘောတူစာချုပ်တွင် ပါရှိသည့် ဟိုတယ်တရားဝင်ဖွင့်လှစ်သည့်နေ့မှစ၍ ပေးချေရမည်။ ပထမအကြိမ်ပေးချေသည့် ငွေ ( ၂၄၀၀၀၀ ) ကျပ်ဖြစ်ပါသည်။ ဒုတိယအရစ်ကို ယင်းဘဏ္ဍာရေးနှစ်၏ မတ်လ (၃၁)ရက်နေ့ မတိုင်မီ ပေးချေပါမည်။ ဒုတိယအရစ်ပေးချေသည့်ငွေမှာ ငွေကျပ် ( ၁၆၀၀၀၀ ) ဖြစ်သည်။

၉.၄ စာချုပ်လက်မှတ်ရေးထိုးသည့်နှစ်တွင် အထက်ပါအတိုင်း ပေးချေပြီးနောက် လာမည့်နှစ်မှစ၍ နှစ်စဉ်ကျသင့်သည့် မြေငှားရမ်းခများကို ပထမအရစ်အဖြစ် ယင်းဘဏ္ဍာရေးနှစ်၏ စက်တင်ဘာလ (၃၀)ရက် နောက်ဆုံးထား၍ တစ်ကြိမ်၊ ဒုတိယအရစ်ကို ယင်းဘဏ္ဍာရေးနှစ်၏ မတ်လ (၃၁) ရက် နောက်ဆုံးထား၍ တစ်ကြိမ် မပျက်မကွက်ပေးသွင်းရမည်။

၉.၅ မြေငှားရမ်းခတစ်နှစ်လျှင် နှစ်ကြိမ်အရစ်ကျပေးသွင်းရာတွင် ငွေပေးသွင်းမှု နောက်ကျပါက အငှားချထားခြင်းခံရသူသည် နောက်ကျကြေးအဖြစ် တစ်ရက်လျှင် မြန်မာငွေကျပ် ( ၅၀၀၀၀ ) နှုန်းဖြင့် တွက်ချက်၍ ထပ်မံပေးသွင်းရမည်။

၉.၆ အပန်းဖြေစခန်းနှင့် ဟိုတယ်များစတင်ဖွင့်လှစ်သည့်နေ့ရက်သည် တည်ဆောက်ရေးကာလ သတ်မှတ်ရက်ထက် မကျော်လွန်စေရပါ။ အကယ်၍ ၄င်းနေ့သည် တည်ဆောက်ရေးကာလသတ်မှတ်ရက်ထက် ကျော်လွန်ပါက နှစ်စဉ်ငှားရမ်းခကို အဆိုပါတည်ဆောက်ရေးကာလ ပြီးဆုံးသည့်နေ့မှစ၍ ပေးချေရမည်။

၁၀.၀ ဒေသဖွံ့ဖြိုးရေး ရန်ပုံငွေ

၁၀.၁ လုပ်ငန်းကို စီးပွားဖြစ် စတင်လုပ်ကိုင်ကြောင်း တင်ပြလုပ်ကိုင်သည့် နေ့မှစ၍ နှစ်စဉ်ရရှိသည့် ဝင်ငွေများထဲမှ အသားတင်အမြတ်၏ ၂% (နှစ် ရာခိုင်နှုန်း) (သို့မဟုတ်) အနည်းဆုံးငွေကျပ် (၂၀၀၀၀၀၀၀) ကျပ် (ကျပ်သိန်းနှစ်ရာတိတိ) အနက်များသည့်ပမာဏကို တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ထံ ဒေသဖွံ့ဖြိုးရေး ရန်ပုံငွေအဖြစ် အငှားချထားခြင်းခံရသူက ပေးသွင်းရမည်။ ယင်းဒေသဖွံ့ဖြိုးရေး ရန်ပုံငွေကို (၂) နှစ် တစ်ကြိမ် နှစ်ဖက်စုံညီ ညှိနှိုင်းလျက် တိုး/လျှော့ပြုလုပ်ကြရန် သဘောတူကြပါသည်။

၁၁.၀ **မြေငှားစာချုပ် စတင်အကျိုးသက်ရောက်ခြင်း**

၁၁.၁ ဤမြေငှားစာချုပ်သည် စာချုပ်ဝင်များက စတင်လက်မှတ်ရေးထိုးသည့် ၂၀၁၅ ခုနှစ် ၊ ----------------- လ ၊ ------------ရက်နေ့မှ စ၍အကျိုးသက်ရောက်မှု ရှိစေရမည်။

၁၂.၀ **စာချုပ်ရပ်စဲခြင်း**

၁၂.၁ အောက်ဖော်ပြပါ အကြောင်းတစ်ရပ်ရပ် ပေါ်ပေါက်ပါက စာချုပ်ဝင် တစ်ဖက်ဖက်မှ ရပ်စဲခွင့်ရှိကြပါသည် -

(က) စာချုပ်ဝင်နှစ်ဦးနှစ်ဖက် သဘောတူညီချက်ဖြင့် ရပ်စဲခြင်း။

(ခ) ကြိုတင်မမျှော်မှန်းနိုင်သည့် မလွန်ဆန်နိုင်သော ဖြစ်ရပ်များ ဖြစ်ပေါ်လာ၍ ဖြစ်ရပ် ကာလကြာမြင့်နေခြင်း။

(ဂ) လုပ်ငန်းတွင် ကြီးမားစွာဆက်တိုက်အရှုံးပေါ် ပေါက်နေခြင်း။

(ဃ) စာချုပ်ဝင်တစ်ဖက်ဖက်မှ စာချုပ်ပါတာဝန်များကို ဆောင်ရွက်ရန် ဆက်တိုက် ပျက်ကွက်နေခြင်း။

(င) လုပ်ငန်း၏ မူလရည်ရွယ်ချက်များကို အကောင်အထည်ဖော်နိုင်စွမ်း မရှိတော့ခြင်း။

(စ) အငှားချထားခြင်းခံရသူသည် ဤ သဘောတူစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှ ရက်ပေါင်း (၃၆၅) ရက်အတွင်း တည်ဆောက်ရေးလုပ်ငန်းများကို လုံးဝစတင်နိုင်မှုမရှိခြင်း။

၁၂.၂ ဤစာချုပ်ရပ်စဲသည့်အခါ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရမည်။

၁၃.၀ **သယံဇာတပစ္စည်းတွေ့ရှိခြင်း**

၁၃.၁ အငှားချထားခြင်းခံရသူသည် ဤစာချုပ်၏သက်တမ်းအတွင်း စာချုပ်ပါ လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်သည့် မြေ၏ မြေပေါ်၊ မြေအောက်မှ မမျှော်လင့်ဘဲ ဓါတ်သတ္တု၊ အရင်းအမြစ်များ၊ ကျောက်မျက်ရတနာများ၊ ရေနံဓါတုဆိုင်ရာ ပစ္စည်းများ၊ သဘာဝသယံဇာတများ၊ ရှေးဟောင်းပစ္စည်းများ အစရှိသည်တို့ကို တွေ့ရှိလျှင် ထိုသို့ တွေ့ရှိကြောင်း အငှားချထားသူထံသို့ ချက်ချင်းအကြောင်းကြားရမည်။ အငှားချထားသူသည် ထိုပစ္စည်းများကို နိုင်ငံတော်အစိုးရ အဖွဲ့အစည်းသို့ လွှဲပြောင်းတင်ပြရမည်ဖြစ်ပြီး အငှားချထားသူသည် အဆိုပါ သယံဇာတပစ္စည်းများကို မည်သည့်အချိန်တွင်မဆို လွတ်လပ်စွာ တူးဖော်ပိုင်ခွင့်ရှိ စေရမည်။

၁၄.၀ **အငြင်းပွားမှု ဖြေရှင်းခြင်း**

၁၄.၁ ဤစာချုပ်ပါ အချက်တစ်ခုခုနှင့်စပ်လျဉ်း၍ အငြင်းပွားမှု တစ်ခုခုပေါ်ပေါက်ပါက နှစ်ဖက်စုံညီ ချစ်ကြည်ငြိမ်းချမ်းစွာ ဆွေးနွေးညှိနှိုင်းလျက် ဆုံးဖြတ်ကြရမည်။ ယင်းသို့ ဖြေရှင်းပါလျက်နှင့် ပြေလည်မှု မရပါက ယင်းကိစ္စအတွက် စီရင်ပိုင်ခွင့် အာဏာရှိသည့် တရားရုံး၏ အဆုံးအဖြတ်အတိုင်း လိုက်နာဆောင်ရွက် ဖြေရှင်းကြရမည်။

၁၅. ၀ မလွန်ဆန်နိုင်သော ဖြစ်ရပ်များ

၁၅. ၁ ကြိုတင်မျှော်မှန်းနိုင်စွမ်း မရှိသည့် မလွန်ဆန်နိုင်သော ဖြစ်ရပ်များတွင် အကျုံးဝင်သော သဘာဝဘေးအန္တရာယ်များ ဖြစ်ပေါ်ခြင်း၊ စစ်မက်ဖြစ်ပွားခြင်း၊ ကူးစက်ရောဂါဖြစ်ပွားခြင်း၊ ဆူပူအကြမ်းဖက်မှု၊ အဓိကရုဏ်းဖြစ်ခြင်း စသည့်ဖြစ်ရပ်များကြောင့် စာချုပ်ဝင် တစ်ဖက်ဖက်မှ စာချုပ်ပါတာဝန်များကို ဆောင်ရွက်ခြင်းငှာ မစွမ်းနိုင်ပါက ၎င်းအပေါ်တွင် မည်သည့်တာဝန်မျှ မရှိစေရ၊ သို့ရာတွင် မလွန်ဆန်နိုင်သော ဖြစ်ရပ်များ ပေါ်ပေါက်သည့်နေ့မှစ၍ (၁၄) ရက်အတွင်း အခြားတစ်ဖက်သို့ စာဖြင့်အကြောင်းကြားရမည်။ မလွန်ဆန်နိုင်သောဖြစ်ရပ်များ ပေါ်ပေါက်ကြောင်း၊ အခြားတစ်ဖက်ဖက်က လက်ခံလျှင် စာချုပ်ဝင် နှစ်ဦးနှစ်ဖက်လုံးတွင် မည်သည့်တာဝန်မျှ မရှိစေရ။

၁၅.၂ မလွန်ဆန်နိုင်သည့် ဖြစ်ရပ်များ ပေါ်ပေါက်လာသည့်ကာလကို ငှားရမ်းခြင်း ကာလမှ ထုတ်နှုတ်ရန် ဖြစ်ပါသည်။

၁၆. ၀ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း

၁၆. ၁ အငှားချထားခြင်းခံရသူသည် ဤစာချုပ်ပါလုပ်ငန်းများကို အကောင်အထည်ဖော် ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လေ၊ ရေ၊ မြေ ညစ်ညမ်းခြင်း မရှိစေရန်နှင့် သဘာဝအနေအထားပျက်စီးခြင်း မရှိစေရန်လည်းကောင်း၊ ပတ်ဝန်းကျင်နယ်မြေတွင် အလားတူဆောင်ရွက်မှုများကို ထိပါးနှောင့်ယှက်ခြင်း မရှိစေရန် လည်းကောင်း၊ လိုအပ်သော အကာအကွယ်များကို ကြိုတင်စီမံဆောင်ရွက်ထားရှိရမည်။

၁၇. ၀ မြေနှင့်အဆောက်အဦသို့ ပြန်လည်ဝင်ရောက်ခွင့်

၁၇. ၁ အငှားချထားခြင်းခံရသူသည် စာချုပ်ပါ စည်းကမ်းချက် တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန် ပျက်ကွက်ခြင်းကြောင့် အငှားချထားသူက ယင်းကဲ့သို့ ပျက်ကွက်မှုများကို ပြုပြင်ရန် (သို့မဟုတ်) လိုက်နာရန် အငှားချထားခြင်း ခံရသူသို့ အကြောင်းကြားစာ ပေးပို့ပြီးနောက် အကြောင်းကြားစာပါ ကာလ အတွင်း လိုက်နာမှုမရှိပါက အငှားချထားသူသည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုထားသည့် မြေ၊ ယင်းမြေပေါ်ရှိ အဆောက်အဦများကို ပြန်လည်ဝင်ရောက်၍ လက်ဝယ်ရယူခွင့်ရှိသည်။ သို့ရာတွင် ယင်းသို့ဝင်ရောက်၍ လက်ဝယ်ရယူခြင်းသည် အငှားချထားသူက အငှားချထားခြင်းခံရသူထံမှ ရရန်ရှိသော ငှားရမ်းခ (သို့မဟုတ်) ပျက်ဆီးဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

၁၈. ၀ စာချုပ်အပေါ် ပြန်လည်ညှိနှိုင်းခြင်း၊ ပြင်ဆင်ခြင်း

၁၈. ၁ ဤစာချုပ်ချုပ်ဆိုသော အချိန်တွင်ရှိသည့် အခြေအနေနှင့် မတူညီသော အခြေအနေမျိုး ပေါ်ပေါက်လာပါက စာချုပ်ဝင် နှစ်ဦးနှစ်ဖက် ပြန်လည် ညှိနှိုင်းဆွေးနွေး ခွင့်ရှိသည်။

၁၈. ၂ ဤစာချုပ်ချုပ်ဆိုပြီးနောက် ကြိုတင်မျှော်မှန်းထားခြင်းမရှိသော အခြေအနေ သို့မဟုတ် အကြောင်းအရာတစ်ရပ်ရပ်ပေါ်ပေါက်ခြင်းကြောင့် ဤစာချုပ်ပါ စည်းကမ်းချက်တစ်စုံတစ်ရာအား ပြင်ဆင်ခြင်း ၊ ပြောင်းလဲခြင်း (သို့မဟုတ်) ဖြည့်စွက်ခြင်းပြုလုပ်ရန် လိုအပ်ပါက စာချုပ်ဝင်များ ညှိနှိုင်းပြီး သဘောတူညီချက်အရ စာဖြင့်ရေးသား၍ ပြင်ဆင်ခြင်း ၊ ပြောင်းလဲခြင်း (သို့မဟုတ်) ဖြည့်စွက်ခြင်းပြုလုပ်နိုင်သည်။

၁၉.၀ စာချုပ်အစိတ်အပိုင်းများ

၁၉.၁ ဤစာချုပ်နှင့်အတူ ပူးတွဲထားသောအောက်ဖော်ပြပါ စာရွက်စာတမ်း၊ မြေပုံ၊ စာရင်းဇယား တို့သည် ဤစာချုပ်၏ အစိတ်အပိုင်းများ အဖြစ်သတ်မှတ်ရမည်။

(က) ခေင်ညိုကြီးကျွန်း၏ မြေပုံ (ငှားရမ်းမြေကို အဂါရောင်ဖြင့် ခြယ်သထားပါသည်။) (နောက်ဆက် တွဲ "က") ။

(ခ) တည်ဆောက်မည့် အဆောက်အဦးဘန်ဂလိုပုံစံကို ပူးတွဲဖော်ပြပါသည်။ (နောက်ဆက်တွဲ " ခ ")။

၂၀.၀ စာချုပ်၏ တရားဝင် ဘာသာစကား

၂၀.၁ စာချုပ်၏တရားဝင် ဘာသာစကားမှာ မြန်မာဘာသာစကားနှင့်စာ ဖြစ်ပါသည်။ စာရေးသား ဆက်နွယ်မှု၊ ပြောဆိုမှုများအားလုံး မြန်မာစာ၊ မြန်မာစကားဖြင့် ဆောင်ရွက်ပါမည်။

၂၁.၀ လွှမ်းမိုးသည့် ဥပဒေ

၂၁.၁ ဤသဘောတူစာချုပ်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ပါမည်။

၂၂.၀ အကြောင်းကြားခြင်း

၂၂.၁ စာချုပ်ဝင်များသည် လူပုဂ္ဂိုလ်စေလွှတ်ဆက်သွယ်ခြင်း၊ တယ်လီဖုန်းဖြင့် ဆက်သွယ်ပြောကြား မှတ်တမ်းယူခြင်း၊ မှတ်ပုံတင်စာ၊ ဖက်စ်၊ အီးမေးလ်တို့ကို အသုံးပြုခြင်းတို့ဖြင့် ဆောင်ရွက်နိုင်ပါသည်။ ဆက်သွယ်ရာတွင် အဆင်ပြေစေရေး အတွက် အချက်အလက်များကို အောက်ပါအတိုင်း ဖော်ပြထားပါသည်။ ပြောင်းလဲမှု တစ်ခုခုပေါ်ပေါက်ပါက ပြောင်းလဲသည့်ဖက်က ကျန်တစ်ဖက်သို့ အနည်းဆုံး (၇)ရက် ကြိုတင် အကြောင်းကြားပေးရပါမည်။

၂၂.၂ အငှားချထားသူ၏ လိပ်စာ

ဦးတင်သိန်း

မှတ်ပုံတင်အမှတ်-၇/တငန(နိုင်) ၀၀၆၀၆၇

အတွင်းရေးမှူး

တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

တယ်လီဖုန်း -----------------------------------

ဖက်စ် -----------------------------------

၂၂.၃ အငှားချထားခြင်းခံရသူ၏ လိပ်စာ

ဦးဇော်မျိုးကျော်

မှတ်ပုံတင်အမှတ်-၇/ပခန(နိုင်)၀၀၂၃၅၅

မန်နေဂျင်းဒါရိုက်တာ

United Hotels and Resorts Co.,Ltd

အမှတ် ၁၂၃-၁၂၅၊ ၁၃၄-၁၃၅ ရွှေရင်အေး (၁) လမ်း၊

တိုးချဲ့စက်မှုဇုန် (၅)၊ လှိုင်သာယာမြို့နယ်၊

ရန်ကုန်မြို့၊ ရန်ကုန်တိုင်းဒေသကြီး

တယ်လီဖုန်း - ၀၁-၆၈၀၂၀၁၊ ၆၈၀၂၀၂၊ ၆၈၀၂၀၃၊ ၆၈၀၄၀၅

ဖက်စ် - ၀၁-၆၈၀၂၀၁၊ ၆၈၀၂၀၂၊ ၆၈၀၂၀၃

အထွေထွေ

စာချုပ်ပါ အသီးသီးသည် ဤသဘောတူစာချုပ်ပါ စည်းကမ်းချက်များကို ဖတ်ရှုနားလည်သိရှိပြီး သဘောတူလက်ခံပါသဖြင့် ၂၀၁၅ ခုနှစ်၊ လ၊ ရက်တွင် အောက်ဖော်ပြပါ အသိသက်သေများ၏ရှေ့မှောက်၌ အသီးသီး လက်မှတ်ရေးထိုးချုပ်ဆိုကြပါသည်။

| | |
|---|---|
| အငှားချထားသူ | အငှားချထားခြင်းခံရသူ |
| ဦးတင်သိန်း | ဦးဇော်မျိုးကျော် |
| အတွင်းရေးမှူး | မန်နေဂျင်းဒါရိုက်တာ |
| တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ | United Hotels and Resorts Co.,Ltd |

အသိသက်သေများ

| | | | |
|---|---|---|---|
| အမည် | ---------------------------- | အမည် | ---------------------------- |
| မှတ်ပုံတင် | ---------------------------- | မှတ်ပုံတင် | ---------------------------- |
| တာဝန် | ---------------------------- | တာဝန် | ---------------------------- |
| လိပ်စာ | ---------------------------- | လိပ်စာ | ---------------------------- |

တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့

နှင့်

**United Hotels and Resorts Co.,Ltd**

တို့အကြားချုပ်ဆိုသော

တည်ဆောက်၊လုပ်ကိုင်၊

လွှဲပြောင်းခြင်းဆိုင်ရာသဘောတူစာချုပ်

(မူကြမ်း)

ခေင်ညီကြီးကျွန်း

## တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့

## နှင့်

## United Hotels and Resorts Co.,Ltd

## တို့အကြား ချုပ်ဆိုသော

## တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ သဘောတူစာချုပ် (မူကြမ်း)

ဤတည်ဆောက်လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာသဘောတူစာချုပ်ကို ၂၀၁၅ ခုနှစ်၊............လ၊ ...........ရက်နေ့တွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ မြို့တွင် ဦးတင်သိန်း (မှတ်ပုံတင်အမှတ် ၊ ၇/တငန(နိုင်)၀၀၆၀၆၇)၊ အတွင်းရေးမှူး၊ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ ကိုယ်စားပြု၊ တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့၊ ထားဝယ်မြို့၊ (နောင်တွင် "လုပ်ကိုင်ခွင့်ပြုသူ" ဟုခေါ်တွင်မည်ဖြစ်ပြီး၊ ယင်းစကားရပ်တွင် ၎င်းအားဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်း ခံရသူများ ပါဝင်သည်။)

က တစ်ဖက် နှင့်

ဦးဇော်မျိုးကျော် (မှတ်ပုံတင်အမှတ် ၇/ပခန(နိုင်) ၀၀၂၃၅၅) မန်နေဂျင်း ဒါရိုက်တာ United Hotels and Resorts Co., Ltd. ကိုယ်စားပြုသော ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ အမှတ်-၁၂၃-၁၂၅၊ ၁[illegible]-၁၃၅ ၊ ရွှေရင်အေး ၁-လမ်း ၊ စက်မှုဇုန် (၅) တိုးချဲ့ရပ်တွင် ဖွင့်လှစ်ထားရှိသော United Hotels and Resorts Co., Ltd. (နောင်တွင် "လုပ်ကိုင်ခွင့်ရသူ" ဟုခေါ်တွင်မည်ဖြစ်ပြီး ယင်းစကားရပ်တွင် ၎င်း၏တရားဝင်ကိုယ်စားလှယ်များနှင့် ၎င်းအားဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်)။

က တစ်ဖက်တို့သည်

တနင်္သာရီတိုင်းဒေသကြီး၊ ကော့သောင်းခရိုင်၊ ကော့သောင်းမြို့၏ အနောက်မြောက်ဘက် ရေမိုင် (၄၃) ခန့်အကွာ၊ မြောက်လတ္တီကျု ၁၀°၂၇' N နှင့် အရှေ့လောင်ဂျီကျု ၉၇°၅၂'E တွင်တည်ရှိသော ခင်ညီ[illegible]ကျွန်း (Boulder Rock Island)၊ ကို မြေဧရိယာ အကျယ်အဝန်းသတ်မှတ်၍ အပန်းဖြေဟိုတယ် လုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ရန် တည်ဆောက်၊ လုပ်ကိုင်၊ လွှဲပြောင်းခြင်းဆိုင်ရာ ဤသဘောတူစာချုပ်ကို နှစ်ဦးသဘောတူ စာချုပ်ပြုလုပ် ချုပ်ဆိုကြပါသည်။

လုပ်ကိုင်ခွင့်ပြုသူ နှင့် လုပ်ကိုင်ခွင့်ရသူတို့သည် အောက်ဖော်ပြပါ အချက်အလက်များကို နှစ်ဦးနှစ်ဖက် သဘောတူဆောင်ရွက်သွားကြပါမည်-

**၁.၀ ရည်ရွယ်ချက်နှင့်လုပ်ငန်းပမာဏ**

၁.၁။ သဘာဝအခြေခံ ခရီးသွားလုပ်ငန်းဖွံ့ဖြိုး တိုးတက်စေရန် ဒေသဆိုင်ရာအလုပ်အကိုင် အခွင့်အလမ်းများ တိုးပွားလာစေရန်နှင့် နယ်မြေဒေသဖွံ့ဖြိုးတိုးတက်စေရန် ရည်ရွယ်၍ အပန်းဖြေဟိုတယ် တည်ဆောက်ရေး လုပ်ငန်းများကို လုပ်ကိုင်သွားရန်ဖြစ်သည်။

၁.၂ အငှားချထားခြင်းခံရသူအနေဖြင့် ငှားရမ်းရရှိသောမြေများပေါ်တွင် မြန်မာငွေကျပ် သိန်းပေါင်း (၅၀၀၀၀၀၀၀၀) (ကျပ်သိန်းငါးထောင်တိတိ) ကို ကျခံရင်းနှီး မြှုပ်နှံဆောင်ရွက်သွားမည်ဖြစ်ပြီး ကဏ္ဍအလိုက် ငွေသားရင်းနှီးမှု ကျပ် (၈၅၀၀၀၀၀၀) သိန်း (ကျပ်သိန်း ရှစ်ရာငါးဆယ်တိတိ)၊ အဆောက်အဦတွင် ရင်းနှီးမြှုပ်နှံမှု ကျပ် (၃၀၀၀၀၀၀၀၀) (ကျပ်သိန်းသုံးထောင်တိတိ)နှင့် စက်ကိရိယာပစ္စည်းတွင် ရင်းနှီးမြှုပ်နှံမှု ကျပ် (၁၁၅၀၀၀၀၀၀) (ကျပ်သိန်း တစ်ထောင့်တစ်ရာငါးဆယ် တိတိ) တို့ကို သုံးစွဲဆောင်ရွက်သွားပါမည်။

၁.၃ လုပ်ကိုင်ခွင့်ရသူသည် ခေင်ညိုကြီးကျွန်းရှိ ငှားရမ်းမြေပေါ်တွင် ' အပန်းဖြေဟိုတယ်လုပ်ငန်းအတွက် ဘန်ဂလိုတစ်ထပ် (၃၀)လုံး၊ ပင်မဟိုတယ် အဆောက်အဦ (၁)လုံးနှင့် ဆက်စပ်လုပ်ငန်းများကို ဆောက်လုပ်အသုံးပြုပါမည်။

**၂.၀ အာမခံခြင်း နှင့် ကိုယ်စားပြုခြင်း**

၂.၁ လုပ်ကိုင်ခွင့်ပြုသူသည် တနင်္သာရီတိုင်းဒေသကြီးအစိုးရအဖွဲ့ဖြစ်၍ အုပ်ချုပ်ရေး၊ စီမံခန့်ခွဲရေး အခွင့်အာဏာရှိသူဖြစ်ပြီး ဤသဘောတူစာချုပ်ပါ လုပ်ငန်းကို လုပ်ပိုင်ခွင့်ပေးခွင့်ရှိသူဖြစ်ပါသည်။

၂.၂ လုပ်ကိုင်ခွင့်ရသူသည် ဤစာချုပ်ပါလုပ်ငန်းများကို အကောင်အထည်ဖော် ဆောင်ရွက်နိုင်သည့် အဖွဲ့အစည်းတစ်ရပ်ဖြစ်ပြီး မြန်မာနိုင်ငံ၏တည်ဆဲ ဥပဒေများနှင့်အညီ ဖွဲ့စည်းတည်ထောင်ထားသော ကုမ္ပဏီတစ်ခု ဖြစ်ပါကြောင်းနှင့် လုပ်ငန်းလုပ်ဆောင်ရန် ငွေကြေးအင်အားအပြည့်အဝရှိပါကြောင်း အာမခံပါသည်။

၂.၃ စာချုပ်ဝင် နှစ်ဦးနှစ်ဖက်တို့သည် မိမိတို့၏ အခွင့်အာဏာနှင့် လုပ်ကိုင်နိုင်စွမ်းရှိကြသူများ အသီးသီးဖြစ်ကြောင်း အာမခံပါသည်။

၃.၀ ငှားရမ်းသည့်မြေ

၃.၁ ငှားရမ်းသည့်မြေသည် တနင်္သာရီတိုင်းဒေသကြီး ကော့သောင်းခရိုင် ကော့သောင်းမြို့၏ အနောက်မြောက်ဘက် ရေမိုင် ၄၃ မိုင်ခန့်အကွာ မြောက်လတ္တီကျု ၁၀°၂၇′ (10° 27′N) နှင့် အရှေ့လောင်ဂျီကျု ၉၇° ၅၂′ (97 ° 52′ E) တွင် တည်ရှိသော ခေင်ညိုကြီးကျွန်းတွင် တည်ရှိသည်။ ခေင်ညိုကြီးကျွန်းသည် စုစုပေါင်း ဧက (၅၅၀) ခန့် ကျယ်ဝန်းပြီး လုပ်ကိုင်ခွင့်ရသူက အသုံးပြုလိုသည့် မြေအကျယ်အဝန်းမှာ ဧက (၂၀) ဖြစ်ပါသည်။

ကျွန်းအကျယ်အဝန်း အနေအထားနှင့် ငှားရမ်းအသုံးပြုသည့် မြေဧရိယာကို ဤစာချုပ်တွင် မြေပုံဖြင့် ပူးတွဲထားပါသည်။ (နောက်ဆက်တွဲ "က")။ မြေပုံကို ဤစာချုပ်၏အစိတ်အပိုင်းအဖြစ် မှတ်ယူစေရမည်။

၄. ၀ လုပ်ကိုင်ခွင့်ရသူ၏တာဝန်များ

၄. ၁ လုပ်ကိုင်ခွင့်ရသူသည် သတ်မှတ်ထားသည့် မြေငှားရမ်းခကို သတ်မှတ်ချိန်အတွင်း မပျက်မကွက် ပေးဆောင်ရပါမည်။

၄. ၂ ငှားရမ်းမြေနှင့်စပ်လျဉ်း၍ မြေငှားရမ်းကာလအတွင်း ပေးဆောင်ရမည့် အခွန်အခများ ပေးဆောင်ရပါမည်။

၄. ၃ ငှားရမ်းမြေကို လုပ်ကိုင်ခွင့်ပြုသူက (သို့မဟုတ်) လုပ်ကိုင်ခွင့်ပြုသူ၏ တာဝန်ပေးအပ်ခြင်း ခံရသူက အခါအားလျော်စွာ စစ်ဆေးလိုကြောင်း အကြောင်းကြားလာသည့်အခါ ငှားရမ်းမြေအပေါ် လုပ်ကိုင်ခွင့်ရသူက ဝင်ရောက်စစ်ဆေးခွင့်ပြုပါမည်။ စစ်ဆေးတွေ့ရှိချက်အပေါ် ပြုပြင်ဆောင်ရွက်ရန် လိုအပ်ကြောင်းစာဖြင့် အကြောင်းကြားလာပါက လိုက်နာဆောင်ရွက်ပေးရန်ဖြစ်ပါသည်။

၄. ၄ လုပ်ကိုင်ခွင့်ရသူသည် ဤသဘောတူစာချုပ်၏ ရည်ရွယ်ချက်ပါ အချက်အလက်များနှင့် မသက်ဆိုင်သောကိစ္စအတွက် ငှားရမ်းမြေကို သုံးစွဲခြင်းမပြုရပါ။

၄.၅ မြေငှားရမ်းစဉ် ကာလတစ်လျှောက်လုံး ငှားရမ်းမြေအား တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်း၊ ထပ်ဆင့်ငှားရမ်းလုပ်ကိုင်စေခြင်း၊ အခြားနည်းအသုံးပြု ခြင်းမျိုး မပြုလုပ်ရပါ။

၄. ၆ မြေငှားရမ်းမှုသက်တမ်း ကုန်ဆုံးချိန်တွင် မြေကိုကောင်းမွန်သော အခြေအနေဖြင့် ပြန်လည် အပ်နှံရပါမည်။

၄.၇ မြန်မာနိုင်ငံ၏ တည်ဆဲဥပဒေများနှင့်ဆန့်ကျင်သော ကိစ္စရပ်များကို အငှားချထားသည့် မြေပေါ်တွင် မပြုလုပ်ရ။

၅. ၀ လုပ်ကိုင်ခွင့်ပြုသူ၏တာဝန်များ

၅. ၁ လုပ်ကိုင်ခွင့်ပြုသူသည် မြေအငှားချထားသည့် ကာလအတွင်း ငှားရမ်းသည့် မြေပေါ်တွင် အခြားသောပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းများ (သို့မဟုတ်) အငှားချထားသူက တာဝန်ပေးအပ်ခြင်းခံရသူ ဖြစ်ပါသည်ဟု အဆိုပြုလာသူ တစ်ဦးဦး၏ အနှောင့်အယှက်မရှိစေဘဲ လုပ်ကိုင်ခွင့်ရသူက အေးချမ်းစွာ နှင့် အဆင်ပြေစွာ အသုံးပြုနိုင်စေရေးအတွက် စောင့်ရှောက်မှုပေးရန် ဖြစ်ပါသည်။

၅. ၂ လုပ်ကိုင်ခွင့်ရသူမှ ပေးဆောင်ရမည့် မြေခွန်မှအပ အခွန်အမျိုးအစားများကို မှန်မှန် ပေးသွင်းစေရန် ကြီးကြပ်ဆောင်ရွက်ပေးရမည့်အပြင် အငှားချထားခြင်းခံရသူအား မြေငှားရမ်းခများ ပေးသွင်းမှုကို အဆင်ပြေစေရေးအတွက် စီစဉ်ဆောင်ရွက်ပေးရမည်။

